**လိုအင်ဆန္ဒများပြည့်ဝစေရန်**

ယာရဗ္ဗိ (အို-ကျွန်ုပ်၏ဖန်ဆင်းရှင်)

ကို ဖတ်၍ဆုတောင်းပါ...

**ကျန်းမာရေးမကောင်းလျှင်**

ယာရှာဖီ (အို-ကျန်းမာစေသောအရှင်)

ကို ဖတ်၍ဆုတောင်းပါ...

**အခက်အခဲများ ပြေလည်လိုလျှင်**

ယာနာစွိရု (အို-ကူညီတော်မူသောအရှင်)

ကို ဖတ်၍ဆုတောင်းပါ...

# မာတိကာ

# ဦးယျောဇင်

ချစ်ခင်ရင်းနှီးရပါသော ညီငယ် မော်လဝီအွမ္မရ်က သူ့စာအုပ်မှာ အမှာစာရေးပေးဖို့ ကျွန်တော့်ကို ပြောပါတယ်။ အမှန်တော့ ဒီလိုအမှာစာရေးတဲ့အလုပ်ဟာ ကျွန်တော်နဲ့ မထိုက်တန်သလို စာအုပ်တစ်အုပ်မှာ အမှာစာရေးတယ် ဆိုတာက တာဝန်ကြီးလှပါတယ်။ ဒါပေမယ့် သူကိုယ်တိုင်က အကြိမ်ကြိမ် တိုက်တွန်းလို့ ကျွန်တော်ဟာ ယခုလို အမှာစာ မပီတဲ့ အမှာစာလွှာတစ်ခု ရေးသားလိုက်ပါတယ်။

ကျွန်တော်သိထားတဲ့ သူဟာ အိန္ဒိယနိုင်ငံက နာမည်ကျော် ဒေယိုဘန် သာသနာ့တက္ကသိုလ်ကြီးက ပညာရပ်တွေကို ပြီးမြောက်အောင်မြင်စွာ လေ့လာခဲ့သူ၊ အမိမြေမှာ အဲဒီပညာရပ်တွေကို ပြန်လည်ပို့ချနေသူ၊ အောင်မြင်တဲ့ စီးပွားရေးလုပ်ငန်းရှင် လူငယ်တစ်ဦး၊ စီးပွားရေးနဲ့ စီမံခန့်ခွဲရေး၊ ဘာသာရပ်တွေကို လေ့လာထားသူတစ်ဦး၊ စာဖတ်နာသူတစ်ဦး စသဖြင့် ပုံရိပ်လွှာတွေက တစ်ကန့်စီ သူနဲ့အတူရှိနေတာ ဖြစ်ပါတယ်။ သူဘာသာပြန်ထားတဲ့ စာအုပ်ငယ်လေးကို

ဖတ်ကြည့်တော့လည်း ဘာသာပြန်လက်ရာ ကောင်းသူ တစ်ဦးအဖြစ် မြင်တွေ့ရပြန်တယ်။ ညီငယ်လေးရဲ့ ဘာသာပြန်လက်ရာတွေ စဉ်ဆက်မပြတ် ဆက်လက်ထွက်ရှိပါစေသားလို့ ဆုမွန်တောင်းအပ်ပါတယ်။

ဒီစာအုပ်ကို အိန္ဒိယနိုင်ငံက နာမည်ကျော် ပုဂ္ဂိုလ်တစ်ဦးဖြစ်သူ Hazarat Maulana Kaleem Siddiki သခင်က အိန္ဒိယနိုင်ငံမှာရှိတဲ့ သူတွေကို အစ္စလာမ်သာသနာတော်ဘက်သို့ ဖိတ်ခေါ်ထားတာဖြစ်ပါတယ်။ အစ္စလာမ်သာသနာဘက်သို့ ဖိတ်ခေါ်ပုံ နည်းအမျိုးမျိုးရှိကြသလို အဲဒီနည်းတွေကို ကျင့်သုံးလုပ်ဆောင်နေကြတဲ့ ပုဂ္ဂိုလ်အသီးသီးလည်း ရှိကြပါတယ်။ ဒီစာအုပ်ရေးသားတဲ့သူရဲ့ နည်းလမ်းကတော့ ကျွန်တော်တို့ မြန်မာနိုင်ငံသားများအတွက် သူစိမ်းဆန်နေတယ်လို့ ထင်မြင်သူအချို့လည်း ရှိနိုင်ပါတယ်။ ဘာပဲဖြစ်ဖြစ် သူရဲ့နည်းနာတွေထဲက ကိုယ့်အတွက် အဆင်ပြေမယ့် နည်းလမ်းနဲ့ ကိုယ့်မြေကိုယ့်ရေ သဘာဝတွေနဲ့ ကိုက်ညီတဲ့ နည်း

လမ်းတွေကို ရှာဖွေပြီး ကျင့်သုံးမယ်ဆိုရင် အသီးအပွင့်ကောင်းတွေ ဝေဆာပွင့်ဖူးလာမှာပါ။

ကျွန်တော် လေ့လာမှတ်သားမိသမျှ ဆိုရရင် အမေရိကန်ပြည်ထောင်စုမှာရှိတဲ့မုစ်လင်မ်တွေဟာ ဈေးဝယ်စင်တာတွေ၊ အများပြည်သူ အပန်းဖြေအနားယူရာ ပန်းခြံလိုနေရာမျိုးတွေမှာ လူတွေကို အစ္စလာမ်သာသနာတော်ဘက်သို့ ဖိတ်ခေါ်တင်ပြတာတွေ ပြုလုပ်ကြတယ်။ ရက်ပ်ဂီတသမားတစ်ဦးဆိုရင် သူကိုယ်တိုင် အစ္စလာမ်သာသနာတော်ကို သက်ဝင်ယုံကြည်ပြီးတဲ့နောက် အကျဉ်းထောင်တွေမှာ အကျဉ်းကျနေတဲ့ အကျဉ်းသားတွေဆီ သွားရောက်ပြီး အစ္စလာမ်သာသနာတော်သို့ ဖိတ်ခေါ်တင်ပြတာတွေ လုပ်ပါတယ်။ ဒါပေမယ့် ကျွန်တော့်တို့ဆီမှာ အဲဒီလိုပြုလုပ်ဖို့ဆိုတာ အတွေးထဲမှာတောင် မလွယ်ကူလှပါဘူး။ ပမာဆိုရရင် အပူပိုင်းမှာ ရှင်သန်ပေါက်ရောက်တဲ့ သစ်ပင်မျိုးစေ့တွေကို အအေးပိုင်းမှာ သွားရောက်စိုက်ပျိုးလို့ မရနိုင်ပါဘူး။ အကယ်

၍ စိုက်ပျိုးမယ်ဆိုရင်လည်း ပြုပြင်ပြောင်းလဲမှုအချို့ လုပ်ရမှာဖြစ်ပါတယ်။

ဒီစာအုပ်ကို မူရင်းရေးသားသူ၊ ဘာသာပြန်ဆိုသူနဲ့ ကျွန်တော်အပါအဝင် စာဖတ်သူအားလုံးအပေါ်သို့ မွေးမြူဖန်ဆင်း ကျွေးမွေးစောင့်ရှောက်တော်မူသော အလ္လာဟ် အရှင်မြတ် ထံတော်ပါးမှ မဟာကရုဏာ အဖြာဖြာကျရောက်ပါစေသားလို့ ဆုမွန်တောင်းအပ်ပါတယ်။

**အောင်အောင်သန်း**

(English Instructor)

၁ မတ်၊ ၂၀၂၁

بسم الله الرحمن الرحيم

## လေးစားအပ်ပါသော စာရှုသူသို့

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် လူသား ထုတစ်ရပ်လုံးအား အစ္စလာမ်သာသနာတော်ဘက်သို့ ဖိတ်ခေါ်ရန် နဗီတမန်တော်ပေါင်း (၁၂၄၀၀၀)ကျော်ကို စေလွှတ်တော်မူခဲ့သည်။

ကျွန်ုပ်တို့၏ ချစ်နဗီ(ﷺ)သည် အန္တိမတမန်တော် ဖြစ်တော်မူသည့်အတွက် တမန်တော်မြတ်(ﷺ)နောက်တွင် နောက်ထပ် နဗီပွင့်ပေါ်ရန် မရှိတော့ချေ။ သို့သော်လည်း နဗီတမန်တော်အပေါင်း ဆောင်ရွက်ခဲ့သည့် ဒအ်ဝသ်(အစ္စလာမ့်ဘက်သို့ ဖိတ်ခေါ်ခြင်းလုပ်ငန်းကို) ဆွဟာဗဟ်သာဝက(رضي الله عنهم) ကြီးများမှတဆင့် သာဗေ့အီ(رحمهم الله)များ၊ ထိုမှတဆင့်ယနေ့တိုင် နဗီတမန်တော်တို့၏ အမွေစားအမွေခံများမှ တာဝန်သိသိ သစ္စာရှိရှိဖြင့် ထိန်းသိမ်းဆောင်ရွက်လျက်ရှိပါသည်။

ထိုနည်းတူစွာ ခေတ်အဆက်ဆက်တွင် ဤဒအ်ဝသ် လုပ်ငန်းစဉ်သည် ပြတ်တောက်သွားခြင်းမရှိဘဲ ထာဝရ

ရှင်သန်လျက်ရှိ နေခဲ့ပါသည်။ လုပ်နည်းလုပ်ဟန်များ ကွာဟသွားခဲ့ခြင်းမျိုးတော့ ရှိပါသည်။ အချို့က မွတ်စ်လင်မ်အချင်းချင်းအတွင်း လစ်ဟင်းပျက်ကွက်နေသော တာဝန်များကိုသတိပေးနေကြသည်။ အချို့ကအယူကွဲပြား ညီနောင်များကို အစ္စလာမ်သာသနာတော်အား တင်ပြပြီး ဖိတ်ခေါ်နေကြသည်။ အချို့ကနည်းပညာဖြင့်၊ အချို့ကမိမိတို့ ကလောင်စွမ်းရည်ဖြင့် လူထုကို အစ္စလာမ့်သဝဏ်လွှာများ ပို့ချနေကြသည်။ အချို့က တစ်ဦးချင်းစီ၊ အချို့က အုပ်စုလိုက် အလင်းတရား၏ သတင်းစကားများကို လက်ဆင့်ကမ်းနေကြပါသည်။

ဤကြိုးပမ်းမှုများအနက် အိန္ဒိယနိုင်ငံမှ မော်လာနာကလီးမ် ဆိဒ္ဒီကီ (နဒ်ဝီ)၏ ကြိုးပမ်းမှုသည်လည်း လက်ရှိကာလတွင် အလွန်ပင်ထိရောက်လှပြီး အသီးအပွင့်များလည်း ဖူးပွင့်ဝေဆာလျက်ရှိနေပါသည်။ သခင်သည် အယူကွဲပြားညီနောင်များကို တိုက်ရိုက် အစ္စလာမ့်အလှတရားများအားချပြပြီး အစ္စလာမ့်ဘက်သို့ ဖိတ်ခေါ်ပါသည်။

မွတ်စ်လင်မ်ထု တစ်ရပ်လုံးကိုလည်း ဤတာဝန်ကို ဆောင်ရွက်ရန် စာပေများပြုစုပြီး သတိပေးလျက်ရှိနေခဲ့ပါသည်။ ဤစာပေများအနက် “Aap ki Amanat Aap ki sewa mayn” အမည်ရှိစာအုပ်သည်လည်း အလွန်ပင် ထိရောက်လှပါသည်။

မြန်မာမြေမှ မွတ်စ်လင်မ်များအနေဖြင့် မိမိတို့ပေါ်တင်ရှိနေသည့် တာဝန်တစ်ရပ်ကို တတ်နိုင်သရွေ့ အကောင်အထည်ဖော်နိုင်ရန် ရည်သန်လျက်၊ အယူကွဲပြားညီနောင်များလည်း အစ္စလာမ်သာသနာတော်ကို သိကျွမ်းနားလည်နိုင်စေရန် ကျွန်တော်၏ ချစ်မိတ်ဆွေ အလ်ဟားဂျ် မော်လာနာ ကာရီ မုဖ်သီ မုဟာမ္မဒ် အုမရ် (ကာစေ့မီ)မှ အထက်ပါစာအုပ်ကို မြန်မာဘာသာဖြင့် ပြန်ဆိုလိုက်ပါသည်။ မော်လာနာ၏ ဘာသာပြန်ဆိုချက်များကို အရှင်မြတ်အထူးလက်ခံတော်မူပါစေ၊ ဆက်လက်ပြီး အွမ္မသ်အတွက် အကျိုးဖြစ်ထွန်းစေမည့် စာအုပ်စာပေများကိုလည်း ထုတ်ဝေခွင့်၊ ရေးသားပြုစုနိုင်စွမ်းများ ချီးမြှင့်ပေးသနားတော်မူပါစေ။

ဤစာအုပ်ကိုအကြောင်းပြုပြီး လူတိုင်း အစ္စလာမ်သာသနာတော်ကို နားလည်နိုင်ခွင့် ပေးသနားတော်မူပါစေ။

**မုဟမ္မဒ် အာစွင်းမ်**

နဒ်ဝီ၊ အဇ္ဇလ်ဟာစနီ၊ မဒ္ဒာဟော့ရီ

ရဂျဗ်လ (၁၉)ရက်၊ ဟစ်ဂျ်ရီ (၁၄၄၂)ခု

ခရစ်နှစ်(၂၀၂၁)ခု၊ မတ်လ (၂၁)ရက်

بسم الله الرحمن الرحيم

# ဟဇရသ် မော်လာနာ ကလီးမ် ဆွိဒ္ဒီကီအကြောင်း တစေ့တစောင်း

Maulana Kaleem Siddiquiကို ၁၉၅၇၊ စက်တင်ဘာ ၂၃ ရက်တွင် အိန္ဒိယနိုင်ငံ Uttar Pradesh ပြည်နယ် Muzaffar Nagar ခရိုင်၊ Phulat တွင်မွေးဖွားခဲ့သည်။ သခင်၏မိခင်သည် ဟဇရသ် ရှားဟ်ဝလီယွလ္လာဟ် ဒေဟ့်လဝီ သခင်ကြီး၏ မျိုးနွယ်ဝင် တစ်ဦးဖြစ်သည်။

ငယ်စဉ်ကပင် သခင်သည် တောက်ပသည့်ပါရမီရှင် ကျောင်းသားတစ်ယောက်ဖြစ်ခဲ့သည်။ ဆေးကျောင်းဝင်ခွင့်စာမေးပွဲတွင် အဆင့်(၅၇)ရရှိခဲ့သည်။ သို့သော် MBBSတွင် ဝင်ရောက်ခြင်းမရှိဘဲ သာသနာ့ပညာရေး နယ်ပယ်သို့ ချင်းနင်းဝင်ရောက်လာခဲ့သည်။

အိန္ဒိယနိုင်ငံ UP ပြည်နယ်၊ Lucknow မြို့ရှိ Darul Uloom, Nadwatul Ulama ကျောင်းတော်ကြီး မှဘွဲ့ရရှိခဲ့ပြီးနောက် ဓာတုဗေဒဘွဲ့ကို ဆက်လက်ရရှိခဲ့သည်။ သခင်သည်

ဟာဇရသ်မော် လာနာအဗွလ်ဟာစံအလီနဒ်ဝီသခင်ကို အလွန် ပင် သဘောကျလွန်းသဖြင့် သခင်ကြီးထံမှပင် နှလုံးသား ပြုပြင်ရေးကဏ္ဍကို ရယူခဲ့သည်။

သခင်သည် မိမိ၏ဇာတိမြေ phulat တွင် ဘွဲ့ရ ကျောင်းသားများ သာသနာ့ပညာရပ်များကိုပါ သင်ယူနိုင်ရန် သင်တန်းကျောင်းတစ်ခုကို ဖွင့်လှစ်နိုင်ခဲ့သည်။ ထို့အတူ သာသနာ့ကျောင်းတော်မှ အာလင်မ်ပြီးမြောက်သော ပညာ ရှင်များအတွက်လည်း သီးသန့်သင်ရိုးတစ်ခုဖြင့် ဘွဲ့လွန် သင်တန်းတစ်ခု စီစဉ်ထားပါ သည်။

Hazarat Maulana Abul Hasan Ali Nadwi (Ali Miyan shab)၏တိုက်တွန်းမှုကြောင့် အယူကွဲပြားညီနောင် များကို သာသနာတော်ပို့ချရန်အတွက် Jamiyat Imam Waliullah Trust နှင့် Charity ကိုတည်ထောင်ခဲ့သည်။

သူသည် အိန္ဒိယနိုင်ငံရှိ ပြည်နယ်များတွင်သာသနာ့ ကျောင်းတော်များနှင့် ခေတ်ပညာကျောင်းများကို တည် ထောင်ခဲ့သည်။ ထိုကျောင်းတော်များ လယ်ပတ်ပုံကို

ကြီးကြပ်ရန် ပြည်နယ်တိုင်းတွင် ဌာနခွဲများကိုလည်း တည်ထောင်ထားသည်။ သခင်သည် အူရဒူဘာသာဖြင့် Armughan လစဉ်ထုတ် မဂ္ဂဇင်း၊ ဟင်န်ဒီဘာသာဖြင့် Sarva Shanti၊ အရဗီဘာသာဖြင့် Al-Khair မဂ္ဂဇင်းတို့ကို ထုတ်ဝေခဲ့သည်။

ငြိမ်းချမ်းရေးနှင့် ဘာသာပေါင်းစုံ သဟာဇတဖြစ်ရေးအတွက်ကမ္ဘာလုံးဆိုင်ရာ သမဂ္ဂတစ်ရပ်ကိုလည်း တည်ထောင်ထားသည်။ သခင်သည် စာရေးဆရာတစ်ဦး၊ တရားဟောဆရာတစ်ဦးအဖြစ် ဦးဆောင်နေခြင်းနှင့်အတူ လူသားတို့ တရားလမ်းမှန်ရရှိရေးအတွက်လည်း သူမတူသည့် စနစ်တစ်ခုဖြင့် ကြိုးပမ်းလျက်ရှိသည်။ သခင်၏ ကြိုးပမ်းမှုဖြင့် မြောက်များစွာသော အယူကွဲပြားညီနောင်များသည်လည်း အစ္စလာမ့်အေးရိပ်ဆာယာအောက်သို့ ခိုလှုံလာခဲ့သည်။

بسم الله الرحمن الرحيم

## ကျမ်းဦးစကား

အကယ်၍ မီးခဲတစ်ခဲလူကြီးမင်းရဲ့ရှေ့မှာ ကျနေပြီး ဖိနပ်မပါတဲ့ ကလေးငယ်တစ်ယောက်က မီးခဲရှိရာဆီ ဦးတည်လျှောက်လှမ်းမယ်ဆိုရင် လူကြီးမင်း ဘာလုပ်မလဲ?

သေချာတာတစ်ခုကတော့ လူကြီးမင်းဟာဒီကလေးကို ချက်ချင်း ရင်ခွင်မှာထွေးပိုက်လိုက်မှာပါ။ ပြီးတော့ ဒီကလေးငယ်ကို ကယ်တင်လိုက်ရခြင်းအပေါ် လူကြီးမင်း အတိုင်းအဆမရှိ ပျော်လို့မဆုံး ပြုံးလို့မဝနိုင်အောင်ဖြစ်နေရမှာပါ။

ဒီလိုပဲ လူတစ်ယောက်မီးထဲမှာ လောင်ကျွမ်းနေမယ်ဆိုရင်လည်း လူကြီးမင်းဟာ လူသားတစ်ယောက်အနေနဲ့ ဆောက်တည်ရာမရာဖြစ်ပြီး လူကြီးမင်းရဲ့ရင်ထဲမှာ သူ့အတွက် သနားကြင်နာစိတ်တွေ အလိုလို ပေါက်ဖွားလာမှာဖြစ်ပါတယ်။

ဒီလိုခံစားချက်တွေဘာကြောင့်ဖြစ်နေတာလဲဆိုတာကို လူကြီးမင်း တစ်ကြိမ်တစ်ခါ စဉ်းစားဖူးပါသလား....? ဒီခံစားချက်တွေအားလုံး ဖြစ်နေတာကတော့ လူသားထုတစ်ရပ်လုံးဟာ တစ်အူတုံ့ဆင်း မောင်ရင်းနှမတွေ၊ တစ်မိတစ်ဖတည်းကနေ ပေါက်ဖွားလာကြတဲ့ သားချင်းတွေဖြစ်နေလို့ပါပဲ။ ဒီလူသားတိုင်းရဲ့ ရင်ထဲမှာ စိတ်နှလုံးသားတစ်ခုရှိနေလို့ပါ။ ဒီစိတ်နှလုံးသားမှာ ချစ်ခြင်းမေတ္တာတွေ၊ သနားကြင်နာစိတ်တွေ၊ စာနာလိုစိတ်တွေ ကိန်းအောင်းနေပါတယ်။ ဒီစိတ်နှလုံးသားဟာ တစ်ဦးတစ်ယောက် ဒုက္ခခံစားနေရတာကိုမြင်ရင် သူလည်းခံစားရပါတယ်။ တစ်ဦးတစ်ယောက်ကို ကူညီလိုက်ရခြင်းအပေါ် ပျော်ရွှင်လာပါတယ်။

ဒါ့ကြောင့် စစ်မှန်တဲ့ လူသားဝါဒရှင်ဆိုတာ သူ့ရဲ့ရင်ထဲမှာ လူသားထုတစ်ရပ်လုံးအတွက် ချစ်ခြင်းမေတ္တာတွေမွေးမြူထားသူဖြစ်ပါတယ်။ သူ့ရဲ့လုပ်ရပ်တစ်ခုတိုင်းဟာ လူသားထုတစ်ရပ်လုံးကို အကျိုးပြုဖို့ဖြစ်နေပါမယ်။ လူသား

တွေရဲ့ ဒုက္ခတွေကိုမြင်တွေ့ပြီး မခံစားနိုင်သူမျိုးဖြစ်နေပါမယ်။ လူသားတွေကို ကူညီခြင်းဟာ သူ့ဘဝရဲ့ အစိတ်အပိုင်းတစ်ခုဖြစ်သွားရပါမယ်။

ဒီလောကီရဲ့သက်တမ်းဟာ တဒင်္ဂ သခ်ၤါရပါပဲ။ ကွယ်လွန်ပြီးတဲ့နောက်မှာ ကြုံဆုံရမယ့်သက်တမ်းဟာ ထာဝရပါ။ ဒီထာဝရသက်တမ်းမှာ မိမိကိုစိုးပိုင်တော်မူတဲ့ အရှင်မြတ်ကို စစ်မှန်တဲ့ ခဝပ်မှု၊ ထိုအရှင်မြတ်ရဲ့ အမိန့်နာခံမှုတွေ မပါဘဲ ဂျန္နသ်ဆိုသော သုခဘုံကို ပိုင်ဆိုင်နိုင်မှာ မဟုတ်ပါဘူး။ သို့သာမက သူဟာ ငရဲဘုံရဲ့ လောင်စာဖြစ်နေမှာပါ။

ယနေ့ သန်းပေါင်းများစွာသော သူတွေဟာ ငရဲမီးရဲ့ လောင်စာဖြစ်ဖို့ ကြိုးစားနေကြပါတယ်။ ငရဲဘုံဆီ တည့်တည့်ခေါ်ဆောင်သွားမယ့် လမ်းစဉ်ကို ရွေးချယ်နေကြပါတယ်။ ဒီလိုအခြေအနေမျိုး၊ ဒီလိုပတ်ဝန်းကျင်မျိုးမှာ လူသားမျိုးနွယ်စုကို ချစ်ခင်မြတ်နိုးတန်ဖိုးထားသူတိုင်းရဲ့ တာဝန်ကတော့ ရှေ့ထွက်ပြီး ငရဲဘုံလားလုဆဲဆဲဖြစ်နေတဲ့

လူသားတိုင်းကို ကယ်တင်ခြင်းပါပဲ။ မိမိအတွက် မဖြစ်မနေ ဆောင်ရွက်သင့်တဲ့ အချက်လို့လည်းမှတ်ယူသင့်ပါတယ်။

လူသားတွေကိုကြင်နာပြီး၊ ငရဲမီးကနေကယ်တင်ဖို့ သောကမှာ လောင်မြိုက်နေတဲ့ ဟာဇရတ် မော်လာနာ ကလီးမ် ဆိဒ္ဒီကီသခင်ကြီးက အချစ်တရားတွေကွန့်မြူးနေ တဲ့ ပန်းလေးတွေ တင်ဆက်ထားပါတယ်။ ဒီထဲမှာ လူသား တွေအတွက် သူ့ရဲ့ချစ်ခြင်းမေတ္တာတွေကို အထင်းသား မြင် တွေ့နေရပါတယ်။ ဒီစာအုပ်ကနေတဆင့် သူဟာ မိမိပေါ်မှာ တင်ရှိနေတဲ့ တာဝန်ကို ကျေပြွန်ဖို့ ကြိုးစားထားပါတယ်။ တကယ်တော့ ဒီတာဝန်ဟာ မိမိကိုယ်ကို မွတ်စ်လင်မ်လို့ ခံယူထားတဲ့ ကျွန်ုပ် တို့အားလုံးပေါ်မှာ တင်ရှိနေတာပါ။

ဒီစကားလုံးလေးများနဲ့အတူ ဒီနှလုံးသားရဲ့ အပိုင်း အစတွေကို သယ်ဆောင်ရင်း "ကိုယ့်တာဝန် ကိုယ်ကျေပြွန် ပါ"လို့သာ ပြောကြားလိုက်ပါတယ်။

**ဝဆ္စီ ဆိုလိုင်မားန် (နဒ်ဝီ)**

အယ်ဒီတာ (လစဉ်ထုတ် အရ်မုဂါန်စာစောင်)

ဖိုလသ်၊ မုဇဖ္ဖရ် နဂရ် (ယူပီ)

**မပြတ်မစဲ သနားကြင်နာတော်မူသော၊ မဟာကရုနာတော်ရှင်**
**ဖြစ်တော်မူသောအလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့်အစပြုပါ၏။**

## ကျွန်တော့်ကို ခွင့်လွှတ်ပါ မိတ်ဆွေတို့

ချစ်လှစွာသော စာဖတ်သူအပေါင်းတို့၊ ကျွန်တော့်ကို ခွင့်လွှတ်ကြပါခင်ဗျား။ ဒါကလည်း ကျွန်တော်နဲ့မှစ်လင်မ် ညီနောင်များ အားလုံးကိုယ်စား ကျွန်တော်က တောင်းပန်ခြင်းဖြစ်ပါတယ်။ ဘာလို့လဲဆိုတော့ ကျွန်တော်တို့ဟာ ဒီလောကမှာ အကြီးမားဆုံး မိစ္ဆာကောင်ဖြစ်တဲ့ ရှိုင်သွာန်ရဲ့ လှည့်ဖြားမှုတွေထဲမှာ နစ်မွန်းနေကြပြီး မိတ်ဆွေအတွက် တန်ဖိုးအကြီးမားဆုံးရတနာကို မိတ်ဆွေတို့ထံ မပို့ချနိုင်လို့ပဲဖြစ်ပါတယ်။ အဲဒီရှိုင်သွာန်မိစ္ဆာကောင်ဟာ ဒုစရိုက်ကို မုန်းရမည့်အစား ဒုစရိုက်ပြုသူရဲ့အမုန်းကို ကျွန်တော်တို့ရဲ့ နှလုံးသားထဲ ထည့်သွင်းပေးပြီး ဒီလောကကြီးတစ်ခုလုံးကို စစ်မြေပြင်အဖြစ် ပြုလုပ်ထားခဲ့တာပါ။

ဒီအမှားကိုတွေးမိပြီး မိတ်ဆွေတို့ရဲ့ရပိုင်ခွင့်တွေကို မိတ်ဆွေတို့ထံပါး ပို့ချဖို့နဲ့ လောဘတစ်စုံတစ်ရာမပါဘဲ

မေတ္တာတရားနဲ့ လူသားဆန်တဲ့စကားရပ်များ တင်ပြနိုင်စေဖို့ ကျွန်တော်အနေနဲ့ ကလောင်ကို ဆွဲကိုင်ရခြင်းဖြစ်ပါတယ်။

နှလုံးသားများရဲ့ ပကတိအခြေအနေကို သိတော်မူသော၊ စိုးပိုင်တော်မူသော၊ ပိုင်ရှင် အစစ်အမှန်ဖြစ်တော်မူတဲ့ အလ္လာဟ်အရှင်မြတ်ကို သက်သေထူပါတယ်။ ဒီစကားရပ်တွေကို ပို့ချရာမှာ အလွန်သဒ္ဒါပြဖြူစင်စွာနဲ့ စာနာမှုရဲ့တာဝန်ကို ကျေပွန်လိုခြင်းသာ အရင်းခံအမှန်ဖြစ် ပါတယ်။ ဒီစကားရပ်တွေကို မိတ်ဆွေတို့ထံ မပို့ချနိုင်တဲ့သောကတွေနဲ့ ကျွန်တော့်မှာ အိပ်စက်မရတဲ့ အိပ်ပျက်ညတွေ များစွာရှိခဲ့ပါတယ်။

## မေတ္တာလွှမ်းတဲ့ စကားတစ်ခွန်း

ဒီစကားရပ်က ထုတ်ဖော်ပြောဆိုရမယ့် စကားတော့ မဟုတ်ပါ။ ဒါပေမယ့်လည်း ကျွန်တော့်ရဲ့မေတ္တာလွှမ်းခြုံတဲ့ စကားအဖုံဖုံကို မိတ်ဆွေတို့က အချစ်မျက်လုံးများနဲ့ ကြည့်ပြီး ဖတ်ရှုစေလိုပါတယ်ခင်ဗျား။

ဒီလောကြကြီးကို ဖန်ဆင်းပြီး စီမံခန့်ခွဲနေတဲ့ အရှင် နှင့်ပတ်သတ်လို့ မိတော်ဆွတို့ စဉ်းစားကြည့်ပါလား။ ဒါမှ ကျွန်တော်လည်း ကျွန်တော့်ညီအစ်ကို သားချင်းတွေရဲ့ ဝတ္တရားကို ပို့ချပြီးတော့ လူသားဖြစ်ခြင်းနဲ့ ညီနောင်ဖြစ်ခြင်း ဆိုတဲ့တာဝန်တွေကို ကျေပွန်မှာဖြစ်သလို အဲဒီလိုဖြစ်မှ ကျွန်တော့်ရဲ့နှလုံးသားနဲ့ ဝိညဉ်တို့ဟာ တည်ငြိမ်အေးချမ်းမှု့ ရနိုင်မှာဖြစ်ပါတယ်။

ဒီလောကကို လူသားတစ်ယောက်အဖြစ် ရောက်ရှိ လာပြီးတဲ့နောက် အဲဒီလူအတွက် အရေးကြီးဆုံးသိမှတ်ဖို့နဲ့ တာဝန်အရှိဆုံးအမှန်တရားကို ဒီမေတ္တာပြည့်ဝတဲ့ စကားရပ် ထဲမှာပဲ ကျွန်တော် ပြောကြားပါရစေ။

## သဘာဝရဲ့ အကြီးမားဆုံးသော အမှန်တရား

သဘာဝရဲ့ အကြီးမားဆုံးသော အမှန်တရားဆိုတာ ဒီလောကမှာရှိတဲ့ အဖန်ဆင်းခံ အားလုံးနဲ့ စကြဝဠာတစ်ခု လုံးကို ဖန်ဆင်းပြီး အဲဒီစကြဝဠာကို ပဲ့ကိုင်ထိန်းချုပ်နေတဲ့ ပုဂ္ဂိုလ်ဟာ သီးသန့်တစ်ပါးတည်းသာ တည်ရှိတော်မူတဲ့

စိုးပိုင်တော်မူသော အရှင်မြတ်သာဖြစ်တယ် ဆိုတာပါ။ အဲဒီ အရှင်ဟာ မိမိကိုယ်တိုင် တစ်ပါးတည်းဖြစ်တော်မူသလို မိမိရဲ့ဂုဏ်တော်များနဲ့ လုပ်ပိုင်ခွင့်များမှာလည်း တစ်ပါးတည်းသာဖြစ်တော်မူပါတယ်။ လောကကြီးကို ဖန်ဆင်းခြင်း၊ စီမံခြင်း၊ သေစေ၊ ရှင်စေခြင်း စတဲ့အရေးကိစ္စဟူသမျှမှာလည်း အဲဒီအရှင်မှာ လုပ်ဖော်ကိုင် ဖက်မရှိပါ။ အဲဒီအရှင်ဟာ နေရာတိုင်းမှာ တည်ရှိတော်မူတဲ့အင်အားဖြစ်တယ်။ အရာရာကိုလည်း ကြားသိတော်မူတယ်။ အရာရာကိုလည်း မြင်တွေ့တော်မူတယ်။ ဒီဇမ္ဗူတစ်ခွင်မှာ အဲဒီအရှင်ရဲ့ခွင့်ပြုချက်မရဘဲ သစ်ရွက်တစ်ရွက်ပင် လှုပ်ရှားနိုင်စွမ်းမရှိပါဘူး။ လူသားတိုင်းဟာ မည်သည့်ဘာသာကိုလက်ခံသူဖြစ်စေ၊ ရုပ်ပွားဆင်းတု ကိုးကွယ်သူဖြစ်စေ အဲဒီလူရဲ့ ဝိညာဉ်ကတော့ ထိုအရှင်ကိုသာ သက်သေထူလျက်ရှိနေပါတယ်။ အဲဒီသူတွေရဲ့အတွင်း(မသိစိတ်)က ဖန်ဆင်းသောသူ၊ ပြုစုပျိုးထောင်သောသူ၊ အမှန်စင်စစ် (အရာခပ်သိမ်းကို) စိုးပိုင်တော်မူသောသူသည် ထိုတစ်ပါးတည်းသာ တည်ရှိတော်မူသော အလ္လာဟ်

အရှင်မြတ်သာဖြစ်ကြောင်း ယုံကြည်လျက်ရှိနေကြစမြဲပါ။ လူသားရဲ့ဦးနှောက်နဲ့ အာရုံမှာလည်း လောကအပေါင်းကို စိုးပိုင်တော်မူသောသူသည် ထိုတစ်ပါးတည်းသော အရှင်မြတ်သာ ဖြစ်ကြောင်းမှလွဲ၍ အခြားအကြောင်းအရာများ ကျက်စားနိုင်ခြင်းမရှိပါ။ တကယ်လို့ ကျောင်း တစ်ကျောင်းမှာ ကျောင်းအုပ်နှစ်ယောက် ရှိနေတယ်ဆိုရင် အဲဒီကျောင်းဟာ လုပ်ငန်းလည်ပတ်မှာ မဟုတ်ပါ။ အဲဒီလိုပဲ ရွာတစ်ရွာမှာ သူကြီးနှစ်ယောက်ရှိမယ်ဆိုရင်လည်း အဲဒီရွာရဲ့ အစီအမံတွေဟာ ကမောက်ကမဖြစ်သွားမှာပါ။ ဒီအတိုင်းပဲ နိုင်ငံတစ်နိုင်ငံကို အုပ်ချုပ်နေတဲ့ သမ္မတ(သို့)ဘုရင်ဆိုတာ နှစ်ဦးမဖြစ်နိုင်ဘူး။ ဒါကြောင့် ဒီလောကကြီးမားခမ်းနားလှတဲ့ စကြာဝဠာကြီးရဲ့ အစီအမံတွေဟာ တစ်ပါးထက်ပိုတဲ့အရှင်တို့နဲ့ ဘယ်လိုများ လည်ပတ်နိုင်ပါ့မလဲ။ ဒီတော့ လောကကြီးကိုပဲ့ကိုင်နေတဲ့ အရှင်ပေါင်းများစွာရှိတယ်ဆိုတာ ဖြစ်နိုင်ပါ့မလား။

## အထောက်အကူတစ်ခု

အလ္လာဟ်အရှင်မြတ်ရဲ့ကျမ်းစာအုပ်ဖြစ်တဲ့ ကုရ်အာန်ကျမ်းတော်မြတ်က လောကကြီးကို မိမိရဲ့မှန်ကန်မှုပြသဖို့ ဒီလိုကြွေးကြော်ထားပါတယ်။

'ငါ၏အစေတော် [နဗီတမန်တော် မုဟမ္မဒ် (ဆွ)] အထံသို့ ငါအရှင်ထုတ်ပြန်ပို့ချတော်မူသော ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ အကယ်၍ အသင်တို့(စိတ်၌) ယုံမှားသံသယ ဒွိဟရှိခဲ့ပါလျှင် ထိုကျမ်းမြတ်နှင့်အလားတူ ကဏ္ဍတစ်ခုမျှ (စီကုန်းရေးသား၍) ယူဆောင်လာ ကြကုန်လော့။'

**(ကျမ်းတော်မြတ်ကုရ်အာန် ၂:၂၃)**

လွန်ခဲ့တဲ့ နှစ်ပေါင်းထောင့်လေးရာမှ ယနေ့တိုင် ကမ္ဘာ့အတော်ဆုံး စာဆိုတော်များ၊ ပညာရှင်များ၊ သူခမိန်များနဲ့ သုတေသီပေါင်းများစွာတို့ လက်မှိုင်ချပြီး ခေါင်းငုံ့ခဲ့ရ၊ ခေါင်းငုံ့နေရဆဲပါ။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်ရဲ့ ဒီစိန်ခေါ်ချက်ကို မည်သူမျှ အဖြေပေးနိုင်ခြင်း မရှိခဲ့ပါ။ နောင်လည်းပေးနိုင်လိမ့်မည်မဟုတ်ပါ။ အရှင်မြတ်က သန့်စင်မွန်

မြတ်တဲ့ ကျမ်းတော်မြတ်ကုရ်အာန်မှာ ကျွန်တော်တို့ စဉ်းစားနားလည်နိုင်စေဖို့ အထောက်အထားများ များစွာပေးထားပါတယ်။ အဲဒီအထဲက ဥပမာတစ်ခုကို ဖော်ပြပါရစေ။

'အကယ်၍သာ ယင်း(မိုးကောင်းကင်နှင့် ပထဝီမြေ) နှစ်ခုတွင် အလ္လာဟ်အရှင်မြတ် အပြင် အခြား(ထာဝရတည်ရှိသော) ကိုးကွယ်ရာများ ရှိခဲ့ကြပါမူ (မိုးကောင်းကင်နှင့် ပထဝီမြေ) နှစ်ခုစလုံးမှာ မလွဲကေန် ပျက်စီးခဲ့ကြပြီးဖြစ်ကြပေမည်။' **(ကျမ်းတော်မြတ် ကုရ်အာန် ၂၂:၂၁)**

စကားရပ်ကတော့ရှင်းပါတယ်။ တကယ်လို့သာ စိုးပိုင်အုပ်ချုပ်သူ တစ်ဦးထက် ပိုမယ်ဆိုရင် ပြဿနာဖြစ်မှာအမှန်ပါ။ တစ်ဦးကအခုအချိန် ညဖြစ်ရမယ်လို့ဆိုရင် နောက်တစ်ဦးက နေ့ပဲဖြစ်ရမယ်လို့ဆိုမယ်။ တစ်ဦးက ခြောက်လကြာကို တစ်ရက်ဖြစ်မယ်လို့ဆိုရင် နောက်တစ်ဦးက သုံးလကြာကို တစ်ရက်ဖြစ်မယ်လို့ဆိုမယ်။ တစ်ဦးက ဒီနေ့ နေကို အနောက်အရပ်က ထွက်စေမယ်လို့ဆိုရင် နောက်တစ်ဦးက အရှေ့အရပ်က ထွက်စေမယ်လို့ ဆိုမယ်။ အဲဒီလိုပဲ နောက်

ထပ်ဥပမာတစ်ခု ဖော်ပြပါရစေ။ တကယ်လို့ နတ်သားတွေ၊ နတ်သမီးတွေမှာ အမှန်တကယ် အခွင့်အရေးရှိပြီး သူတို့ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ စီမံမှုတွေမှာ ဝင်ရောက်စွက်ဖက်ခွင့်ရှိမယ်ဆိုရင် ဒီလိုဖြစ်ရပ်မျိုးတွေ ကြုံတွေ့ရမှာပါ။ အဲဒါကတော့ လူတစ်ယောက်က မိုးနတ်သားကို ပူဇော်ပသပြီး မိုးဆုပန်မယ်။ အဲဒီအချိန်မှာပဲ ဖန်ဆင်းရှင်က မိုးမရွာရလို့ အမိန့်ထုတ်ပြန်ထားမယ်။ အဲဒီအချိန်မှာပဲ အောက်မှာရှိတဲ့ နတ်သားတွေက ဆန္ဒပြကြမယ်။ အဲဒီအချိန်မှာပဲ လူတွေက နေထွက်မလာလို့ မိုးရွာမှာကို စောင့်မျှော်နေကြမယ်။ အမှန်တော့ နေနတ်သားက (မိုးမရွာရလို့) ဆန္ဒပြထားတာကြောင့် နေထွက်မလာတာပါ။ (ဒါက ဥပမာတစ်ခုအနေနဲ့ မြင်သာအောင် ဖော်ပြခြင်းသက်သက်ပါ။ ဖန်ဆင်းရှင်ရဲ့ လုပ်ရပ်တွေမှာ နတ်သားတွေ ဝင်ရောက်စွက်ဖက်ခွင့် ရမယ်ဆိုရင် သဘောထား မတိုက်ဆိုင်ပါက ဒီလိုဆန္ဒပြတဲ့ အခြေအနေမျိုးတွေ ကြုံတွေ့ရမှာပါ။ ဒါပေမယ့် လောကကြီးရဲ့ အစီအမံတွေဟာ ပုံမှန်အတိုင်း လည်ပတ်မပျက်ရှိနေတာကို ကြည့်

ခြင်းအားဖြင့် ဖန်ဆင်းရှင်ရဲ့ စီမံမှုတွေမှာ ဘယ်သူတစ်ဦး တစ်ယောက်မျှ ဝင်ရောက်စွက်ဖက်ခွင့်မရှိတာ သိနိုင်ပါ တယ်။ ဒီတော့ ဒီလောကတစ်ခုလုံးကို ဖန်ဆင်းရှင်တစ်ပါး တည်းကသာ ထိန်းချုပ်ထားကြောင်း သိနိုင်ပါတယ်။)

## မှန်ကန်သော သက်သေ

အမှန်စင်စစ် လောကရှိ အရာရာတိုင်းနဲ့ စနစ်တကျ လည်ပတ်နေသော စကြာဝဠာရဲ့ အစီအမံတို့က လောကကို စိုးပိုင်တော်မူတဲ့အရှင်သည် တစ်ပါးတည်းသာဖြစ်ကြောင်း သက်သေထူလျှက် ရှိနေကြပါတယ်။ ဒါပေမယ့် အဲဒီအရှင်ကို တော့ လူသားရဲ့ အတွေးအခေါ်နဲ့ စိတ်ကူးစိတ်သန်းတွေထဲ မှာ ချုပ်နှောင်ထားလို့မရနိုင်ပါဘူး။

အဲဒီအရှင်မြတ်က တစ်လောကလုံးကို လူသားတို့ရဲ့ အကျိုး သယ်ပိုးရန် ဖန်ဆင်းထားပါတယ်။ နေဟာ လူကို အကျိုးပြုတဲ့အရာ၊ လေဟာ လူကိုအကျိုးးပြုတဲ့အရာ၊ မြေ ပထဝီကလည်း လူကိုအကျိုးပြုနေတဲ့ အရာပဲဖြစ်ကြတယ်။ အဲဒီလိုပဲ မီး၊ ရေ၊ သက်ရှိနဲ့ သက်မဲ့တို့အပါအဝင် လောက

မှာရှိသမျှ အရာခပ်သိမ်းဟာ လူသားကို အကျိုးပြုစေဖို့သာ ဖန်ဆင်းထား ခြင်းဖြစ်ပါတယ်။ အဲဒီနောက်မှာတော့ အလ္လာဟ်အရှင်မြတ်က လူသားကို မိမိရဲ့ကျေးကျွန်အဖြစ် ပြုလုပ်တော်မူပြီး မိမိကိုကိုးကွယ်ရန်နဲ့ မိမိရဲ့အမိန့်တော်တွေကိုနာခံရန် ဖန်ဆင်းထားခြင်းဖြစ်ပါတယ်။ ဒါမှသာ လူသားဟာ ဒီလောကရဲ့ကိစ္စအဝဝကို နည်းစနစ်အမှန်နဲ့ အကောင်အထည် ဖော်နိုင်မှာဖြစ်တယ်။ ဒါမှလည်း လူသားရဲ့ကိုးကွယ်ရာအရှင်က လူသားကို ကျေနပ်နှစ်သက်တော်မူမှာဖြစ်ပါတယ်။

ဖန်ဆင်းတော်မူသောအရှင်၊ ရှင်သန်မှုပေးတော်မူသောအရှင်၊ သေဆုံးခြင်းအား စီမံတော်မူသောအရှင်၊ အစားရေစာနဲ့ ဘဝရဲ့လိုအပ်ချက်အလုံးစုံကို ဖြည့်ဆည်းပေးတော်မူသော အရှင်ဆိုတာလည်း အဲဒီအရှင်မြတ်တစ်ပါးတည်းသာဖြစ်လို့ စစ်မှန်တဲ့ လူသားတစ်ယောက်ဟာ မိမိရဲ့သက်တမ်းနဲ့ပက်သက်တဲ့ ကိစ္စအဝဝတို့ကို ဖန်ဆင်းရှင်ရဲ့ ကျေနပ်နှစ်သက်မှုနဲ့အညီ ထိုအရှင်ရဲ့အမိန့်ကိုနာခံပြီး ဆောင်ရွက်

ခြင်းကသာ တရားမျှတတဲ့အချက်ဖြစ်ပါတယ်။ တကယ်လို့ လူတစ်ယောက်ဟာ မိမိရဲ့သက်တမ်းကို တစ်ပါးတည်းသော အရှင်ရဲ့ အမိန့်တွကို နာခံခြင်းမပြုဘဲ ကုန်ဆုံးမယ်ဆိုပါက အဲဒီသူကို စစ်မှန်တဲ့လူသားလို့ ခေါ်ဆိုထိုက်မည် မဟုတ်ပါ။

## ကြီးကျယ်သော အမှန်တရားတစ်ခု

အဲဒီစစ်မှန်တဲ့အရှင်က မိမိရဲ့မှန်ကန်လှတဲ့ ကျမ်းတော် မြတ်ကုရ်အာန်မှာ များစွာသော အမှန်တရားတို့အနက်မှ အမှန်တရားတစ်ခုကို ဒီလိုတင်ပြထားပါတယ်။

'သက်ရှိသတ္တဝါတိုင်းသည် 'မရဏ' သေခြင်းတရား ၏အရသာကို မြည်းစမ်းကြရမည်သာတည်း။ ထို့နောက် အသင်တို့သည် ငါအရှင်မြတ်ထံတော်သို့ပင် ပြန်လည်ပို့ ဆောင်ခြင်းကို ခံကြရပေမည်။' **(ကျမ်းတော်မြတ်ကုရ်အာန် ၂၉:၅၇)**

ဒီအာယသ်တော်မှာ အချက်နှစ်ချက်ရှိပါတယ်။ တစ်ချက်က သက်ရှိတိုင်းဟာ သေခြင်းတရားကို ခံစားရမယ့် အကြောင်းဖြစ်ပါတယ်။ ဒီအချက်ဟာ ဘာသာဝင်တိုင်း၊

အလွှာတိုင်း၊ နေရာတိုင်းကလူသားတွေ ယုံကြည်လက်ခံထားတဲ့ အချက်ဖြစ်တယ်။ ဒါတွင်မက ဘာသာတရားကို လက်မခံတဲ့သူတွေပင်လျှင် ဒီအမှန်တရားရှေ့မှာ ခေါင်းငုံ့ (လက်ခံ) ကြရတာပါ။ ဒ့ီပြင်လည်း တိရစ္ဆာန်တွေသော်မှ သေခြင်းရဲ့အမှန်တရားကို နားလည်ကြပါတယ်။ ကြွက်တစ်ကောင်ဟာ ကြောင်ကိုမြင်ရင် အသက်လုပြီးထွက်ပြေးသလို လမ်းပေါ် မှာရှိနေတဲ့ ခွေးတစ်ကောင်ဟာလည်း ကားတစ်စီး လာနေတာတွေ့ရင် သူ့အသက်ကို ကာကွယ်ဖို့ လျင်မြန်စွာ ရှောင်ပြေးမှာဖြစ်ပါတယ်။ ဘာလို့လဲဆိုတော့ အဲဒီလိုမပြုမူရင် မုချ သေဆုံးမယ်ဆိုတာ သူတို့နားလည်ထားကြလို့ပါ။

## သေပြီးနောက် တမလွန်မှာ

ဖော်ပြပါ အာယသ်ရဲ့ ဒုတိယအပိုင်းမှာ ကုရ်အာန်ကျမ်းတော်မြတ်က ကျွန်တော်တို့ကို အလွန်ကြီးကျယ်တဲ့ အမှန်တရားဘက်သို့ မီးမောင်းထိုးပြထားပါတယ်။ ဒီအချက်ကို လူသားတွေ သဘောပေါက်နိုင်မယ်ဆိုရင် လောကပတ်ဝန်းကျင်တစ်ခုလုံး ပြောင်းလဲသွားမှာပါ။ အဲဒီအမှန်

တရားကတော့ (အသင်တို့အားလုံး သေပြီးသည့်နောက် ငါအရှင်မြတ်ဘက်သို့ ပြန်ပို့ခြင်း ခံရမည်ဖြစ်သည်။ ၎င်းနောက် ဤလောကတွင် ပြုလုပ်ခဲ့သည့်အတိုင်း အစားပြန်ရမည်ဖြစ်သည်) ဆိုတာပဲဖြစ်တယ်။

လူတစ်ဦးသေဆုံးပြီးနောက် မြေကြီးအသွင်ပြောင်းသွားတယ် (ဒါမှမဟုတ်) ပုတ်သိုး ပျက်စီးသွားပြီးဖြစ်လို့ နောက်တစ်ဖန် ပြန်လည်ဖန်ဆင်းခြင်းမခံရတော့ပါ ဆိုတဲ့ ယူဆချက်က လုံးဝမဟုတ်ပါ။ သေပြီးနောက် လူတစ်ဦးရဲ့ ဝိညာဉ်က အခြားခန္ဓာကိုယ်တစ်ခုထဲ ဝင်ရောက်သွားတယ် ဆိုတဲ့ ယူဆချက်ကလည်း အမှန်တရားမဟုတ်ပါ။ ဒီလို အတွေးအခေါ် ယူဆချက်တွေကို ဘယ်လိုပုံစံနဲ့မျှ ဦးနှောက်က မှတ်ကျောက်တင်နိုင်မှာမဟုတ်ပါ။

ပထမအချက်အနေနဲ့ ပြောကြားလိုတာက သံသရာလည်ခြင်းတဲ့ အတွေးအခေါ်က ရှေးကျမ်းဂန်တွေမှာ မပါဘူး ဆိုတာပဲဖြစ်တယ်။ အဲဒီအတွေးအခေါ်ဟာ နောက်ပိုင်းခေတ်မှာ ပေါ်ပေါက်လာတဲ့ နတ်ပုံပြင်တွေထဲက အကြောင်းအရာ

တွေသာဖြစ်တယ်။ အဲဒီလို အတွေးအခေါ်ရဲ့ အစကဒီလိုပါ။ ရှိုင်သွာန်မိစ္ဆာက ဘာသာရေးအမည်ခံပြီး လူတွေကို ဇာတ်နိမ့်၊ ဇာတ်မြင့်ဆိုတဲ့ အတွေးအခေါ်ထဲမှာ ချည်နှောင်ထားခဲ့တာဖြစ်တယ်။ ဘာသာရေးအမည်ခံပြီး ဇာတ်နိမ့်သူတို့ထံက နေ အလုပ်ယူပြီး သူတို့ကိုနိမ့်ကျသူတွေလို့ လက်ခံထားတဲ့ ဘာသာရေး ခေါင်းဆောင်တွေကို ဇာတ်နိမ့်သူတွေက 'ကျွန်တော်တို့ကို အရှင်မြတ်က ဖန်ဆင်းခဲ့တာ။ အဲဒီအရှင်မြတ်က လူသားအားလုံးကိုမျက်စိ၊ နား၊ နှာခေါင်း စတဲ့အရာတိုင်းမှာ တန်းတူဖန်ဆင်းထားပေမယ့် အသင်တို့က မိမိတို့ကိုယ်ကို ဇာတ်မြင့်သူ၊ ကျွန်တော်တို့ကို ဇာတ်နိမ့်သူလို့ ဘာကြောင့်မှတ်ယူကြတာလဲ'လို့ မေးခွန်းထုတ်တယ်။ အဲဒီအခါ ဘာသာရေးခေါင်းဆောင်တွေက သံသရာလည်ခြင်းဆိုတာကို အကာအကွယ်ယူပြီး 'အသင်တို့ရဲ့ ယခင်ဘဝက မကောင်းမှုတွေက ယခုဘဝမှာ အသင်တို့ကို ဇာတ်နိမ့်သူများအဖြစ် ပြုလုပ်လိုက်ကြတာပဲ ဖြစ်တယ်'လို့ ဖြေကြတယ်။ အဲဒီအတွေးအခေါ်အရ ဝိညာဉ်တိုင်းဟာ ပြန်လည်

ဖန်ဆင်းခံရမယ်၊ ပြီးတဲ့နောက် မိမိတို့လုပ်ခဲ့တဲ့ လုပ်ရပ်တွေအရ ခန္ဓာပြောင်းပြီးပြန်လာကြရမယ်၊ ဒုစရိုက်မှု့တွေများစွာပြုသူဟာ တိရစ္ဆာန်တွေရဲ့ခန္ဓာအသွင်နဲ့ ပြန်ပြီးဖန်ဆင်းခံရမယ်၊ ပိုပြီးကြီးမားတဲ့ ဒုစရိုက်သားတွေကတော့ အပင်တွေပုံစံနဲ့ ပြန်ပြီးဖန်ဆင်းခံရမယ်၊ ကောင်းမှု့ လုပ်သူတွေသာ သံသရာစက်ကွင်းက လွတ်မြောက်မှု့ရကြမယ်လို့ ယုံကြည်ကြတယ်။

## သံသရာမရှိကြောင်း အထောက်အထားသုံးရပ်

(၁) သံသရာမရှိကြောင်းနဲ့ပတ်သက်ပြီး အကြီးမားဆုံး အထောက်အထားကတော့ သိပ္ပံပညာရှင်တွေရဲ့ ပြောကြားချက်ဖြစ်ပါတယ်။ သူတို့ရဲ့အဆိုအရ (မြေပထဝီပေါ်မှာ ပထမဦးဆုံး သစ်ပင်၊ ပန်းပင်တွေဖန်ဆင်းခံရတယ်။ အဲဒီနောက်မှာ တိရစ္ဆာန်တွေ ဖန်ဆင်း ခံရတယ်။ အဲဒီနောက်ပိုင်းနှစ် သန်းပေါင်းများစွာကြာပြီးမှ လူတွေဖန်ဆင်းခံရတယ်။ ဒါဆိုရင် အခုလူသားတွေကို မြေပထဝီပေါ်မှာ ဖန်ဆင်းခြင်းမခံရသေးဘူးဆိုတော့ ဘယ်လူသားတွေရဲ့ ဝိညာဉ်ကမျှ

မကောင်းမှုတွေကျူးလွန်ခြင်းမရှိကြသေးလို့ အရေအတွက်များစွာရှိနေတဲ့ အပင်တွေနဲ့တိရစ္ဆာန်တွေဟာ ဘယ်သူတွေရဲ့ ဝိညာဉ်တွေလဲ)လို့ မေးခွန်းထုတ်ရမှာဖြစ်တယ်။

(၂) ဒုတိယအထောက်အထားက အဲဒီအတွေးအခေါ်ကို လက်ခံပြီးနောက် မြေပထဝီပေါ်မှာ သက်ရှိတွေရဲ့ အရေအတွက်ဟာ နည်းသထက်နည်းသွားရမှာပေါ့။ သံသရာက လွတ်မြောက်သွားသူတွေရဲ့ အရေအတွက်လည်း နည်းသထက်နည်းသွားရမှာပဲလေ။ ဒါပေမယ့် လက်ရှိမှာတော့ မြေပထဝီပေါ်မှာရှိနေကြတဲ့ လူသားတွေ၊ အပင်တွေ၊ တိရစ္ဆာန်တွေရဲ့ အရေအတွက်ဟာ ယခင်ကထက်စာရင် တိုးပွားလျက်ရှိနေတာ မြင်တွေ့နိုင်တာပဲ မဟုတ်လား။

(၃) တတိယအထောက်အထားက ဒီလောကမှာ မွေးဖွားလာသူတွေရဲ့ အရေအတွက်နဲ့ သေဆုံးသွားသူတွေရဲ့ အရေအတွက်က မိုးနဲ့မြေလောက် ကွာခြားလျက်ရှိနေပါတယ်။ သေဆုံးသူတွေရဲ့ အရေအတွက်နဲ့ယှဉ်ကြည့်ရင် မွေးဖွားလာသူတွေရဲ့ အရေအတွက်က အဆပေါင်းများစွာ ပိုနေ

တာတွေ့ရမှာပါ။ ခြင်ကောင်တွေဟာ အရေအတွက်အားဖြင့် သန်းချီ ပေါက်ဖွားနေပြီး သေဆုံးသူအရေအတွက်ကတော့ အဲဒီထက် အဆပေါင်းများစွာ နည်းပါးနေတာပဲမဟုတ်လား။

ရံဖန်ရံခါ မိမိတို့ပတ်ဝန်းကျင်မှာ အချို့သောကလေး များနဲ့ ပတ်သတ်ပြီး အဲဒီကလေးဟာ ယခင်ဘဝက နေခဲ့တဲ့ နေရာကို မှတ်မိတယ်၊ မိမိရဲ့နာမည်ဟောင်းကိုလည်း ပြော တယ်၊ ဒါကြောင့် ဒီကလေးဟာ နောက်တစ်ဘဝ ပြန်လည် ဝင်စားတယ်ဆိုပြီး ကျော်ကြားသတင်းဖြစ်တတ်တယ်။ ဒါ တွေနဲ့ အမှန်တရားကြားမှာ ဘာမျှပတ်သက်မှုမရှိပါဘူး။ ဒါတွေဟာ စိတ်ရောဂါတစ်မျိုးမျိုး၊ အာရုံကြောရောဂါတစ် မျိုးမျိုး၊ နာမ်ပိုင်းဆိုင်ရာ အတွင်းရောဂါ ဒါမှမဟုတ် ပတ်ဝန်း ကျင်ရဲ့ ရိုက်ခတ်မှုဒဏ်တစ်ခုခုကြောင့် ဖြစ်တတ်တာ မျိုး တွေပါ။ ဒါတွေကို သင့်တော်တဲ့ပုံစံနဲ့ ကုသပေးသင့်ပါတယ်။ လူဝင်စားဆိုတာနဲ့ အမှန်တရားဟာ ပြဒါးတစ်လမ်း၊ သံတစ် လမ်းသာဖြစ်ပြီး ဘယ်လိုမျှပတ်သက်မှုမရှိပါဘူး။

လူသားဟာ သေဆုံးပြီးနောက်မှာ မိမိရဲ့ဖန်ဆင်းရှင်ထံ သွားရမယ်ဆိုတာ ဘယ်သူမဆို သေပြီးတဲ့နောက် မလွှဲမသွေကြုံတွေ့ကြရမှာဖြစ်ပါတယ်။ အဲဒီနောက် ဒီလောကမှာ အကောင်း၊ အဆိုးပြုခဲ့သမျှအတွက် ကမ္ဘာ့တရားခွင်နေ့မှာ ကောင်းကျိုး၊ ဆိုးကျိုးမှန်သမျှ အစားပြန်ရမှာဖြစ်ပါတယ်။

## လုပ်ရပ်တိုင်းရဲ့ အသီးအပွင့်ဟူသမျှ ရကြမည်သာ

တကယ်လို့ လူသားဟာ မိမိရဲ့ဖန်ဆင်းရှင်ကို ကိုးကွယ်ပြီး ဖန်ဆင်းရှင်ရဲ့ အမိန့်တော်တွေအတိုင်းနာခံပြီး ကောင်းမှုတွေပြုမယ်၊ ကောင်းမွန်တဲ့ လမ်းစဉ်အတိုင်း လျှောက်လှမ်းခဲ့မယ်ဆိုရင် အဲဒီသူဟာ မိမိအရှင်ရဲ့ကျေးဇူးတော်နဲ့ ဂျန္နသ်(နိဗ္ဗာန်သုခဘုံ)ကို ဝင်ရောက်ခွင့်ရမှာ ဖြစ်ပါတယ်။ အဲဒီမှာ စည်းစိမ်ဟူသမျှ အားလုံးရှိပါတယ်။ ဒါ့အပြင် ဒီလောကမှာရှိတဲ့ ဘယ်လိုမျက်လုံးကမျှ မမြင်ဖူးတဲ့၊ ဘယ်လိုနားကမျှ မကြားဖူးတဲ့၊ ဘယ်လိုနှလုံးသားကမျှ စိတ်ကူးမယဉ်ဖူးတဲ့ စည်းစိမ်များလည်း ရှိပါတယ်။ အဲဒါတွေအားလုံး

ထက် အကြီးမားဆုံး စည်းစိမ်ကတော့ ဂျူးသ်သူ၊ ဂျူးသ်သား တွေဟာ မိမိတို့ကို ဖန်ဆင်းတော်မူတဲ့ အရှင်မြတ်ကို မိမိတို့ ရဲ့ မျက်လုံးတွေနဲ့ ဖူးမြှော်ခွင့်ရရှိကြမှာ ဖြစ်ပါတယ်။ အဲဒီ စည်းစိမ်နဲ့ တန်းတူရည်တူဆိုတာလည်း ရှိမှာမဟုတ်ပါ။ အဲဒီ လိုပဲ မကောင်းမှုပြုကြသူတွေ၊ မိမိရဲ့အရှင်သခင် အစစ် အမှန်ကို ကိုးကွယ်ရမယ့်အစား အခြားသော အရာဟူဟူသမျှ ကို တုဖက်နှိုင်းယှဉ် ကိုးကွယ်ကြသူတွေ၊ ဒုစရိုက်တွေပြုပြီး ဖန်ဆင်းရှင်ရဲ့ အမိန့်တော်တွေကို ဖီဆန်ကြသူတွေဟာ ဂျဟန္နမ်(ငရဲဘုံ)မှာ ထည့်သွင်းခြင်းခံကြရမှာပါ။ အဲဒီနေရာ မှာ အဲဒီသူတွေဟာ မီးထဲမှာလောင်ကျွမ်း ခြင်းခံကြရမှာဖြစ် တယ်။ ဒါကလည်း သူတို့ကျူးလွန်ခဲ့ကြတဲ့ အကုသိုလ်တွေရဲ့ အကျိုးဆက်ပဲဖြစ်တယ်။ အဲဒီသူတွေ ခံစားကြရမယ့် အကြီး မားဆုံးသော အပြစ်ဒဏ်ကတော့ မိမိတို့ရဲ့ ဖန်ဆင်းရှင်ကို ဖူးမြှော်ခွင့်မရရှိခြင်းပဲဖြစ်တယ်။ သူတို့ဟာ ဖန်ဆင်းရှင်ထံ တော်က စူးရှ နာကျဉ်ဖွယ် အပြစ်ဒဏ်တွေ ရောက်ရှိလာတာ ကို ခံစားကြရမှာပါ။

## ဖန်ဆင်းရှင်နဲ့ တုဖက်ကိုးကွယ်ခြင်းဟာ အကြီးဆုံးသော အကုသိုလ်ပါ

အမှန်စင်စစ် စိုးပိုင်တော်မူသော အရှင်မြတ်က မိမိရဲ့ ကျမ်းစာအုပ်ဖြစ်တဲ့ ကုရ်အာန်ကျမ်းတော်မြတ်မှာ ကျွန်တော်တို့ကို ယခုလိုမိန့်ဆိုတော်မူထားပါတယ်။

'ကောင်းမှုကုသိုလ်လုပ်ရပ်တွေမှာ အသေးစားများလည်းရှိသလို အကြီးစားများ လည်းရှိပါတယ်။ အဲဒီလိုပဲ အကုသိုလ်လုပ်ရပ်တွေမှာလည်း အကြီး၊ အသေးဆိုပြီးရှိပါတယ်။ အကုသိုလ်လုပ်ရပ်တွေထဲမှာ လူသားတွေအတွက် အကြီးမားဆုံးနဲ့ အဆိုးရွားဆုံး ပြစ်ဒဏ်ကျခံစေမယ့် အကုသိုလ်တစ်ခုရှိပြီး အဲဒီအကုသိုလ်ကိုလည်း အရှင်မြတ်က ဘယ်တော့မှ ခွင့်လွှတ်တော်မူမှာ မဟုတ်ပါ။ အဲဒီအပြစ်ကို ကျူးလွန်တဲ့သူဟာ အမြဲထာဝရ ငရဲဘုံမှာ လောင်ကျွမ်းခြင်းခံရမှာပဲဖြစ်တယ်။ သူဟာ ငရဲဘုံကနေအပြင်ကို ထွက်နိုင်မှာလည်း မဟုတ်သလို ငရဲဘုံမှာ သေခြင်းတရားကို

တမ်းတတယ်ဆိုလည်း ဘယ်သောအခါမှ သေရမည် မဟုတ်ပါ။'

အဲဒီအကုသိုလ်ကတော့ တစ်ပါးတည်းသောအရှင်နဲ့ သို့မဟုတ် အဲဒီအရှင်ရဲ့ ဂုဏ်တော်တွေနဲ့ လုပ်ပိုင်ခွင့်တွေမှာ တစ်ဦးတစ်ယောက်ကို တန်းတူဖြစ်စေ၊ တွဲစပ်လျက်ဖြစ်စေ သတ်မှတ်ခြင်းဆိုတာပဲဖြစ်ပါတယ်။ တစ်နည်းအားဖြင့် ဒါဟာ မိမိကို ဖန်ဆင်းတော်မူတဲ့ အရှင်မှလွဲပြီး အခြားတစ်ဦးတစ်ယောက်ရဲ့ရှေ့မှောက်မှာ နဖူးမြေချ ကိုးကွယ်ဆည်းကပ်ခြင်းလည်း ဖြစ်ပါတယ်။ မိမိကို မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားသူတစ်ဦးတစ်ယောက်ကို ကိုးကွယ်ခံထိုက်သူ၊ သေစေ၊ ရှင်စေသောသူ၊ စားနပ်ရိက္ခာပေးသောသူ၊ ကောင်းကျိုးဆိုးကျိုး ပြုပေးနိုင်သောသူဆိုပြီး ယုံကြည်ခြင်းဟာ ကြီးမားတဲ့ အကုသိုလ်လည်းဖြစ်သလို အဆိုးရွားဆုံးသော မတရားမှု့လည်းဖြစ်ပါတယ်။ ဒီတော့ ဒေဝီ နတ်တွေကို ယုံကြည်တာဖြစ်စေ၊ နေ၊ လ၊ နက္ခတ်တာရာတွေ ဒါမှမဟုတ် သူတော်ကောင်း တစ်

ယောက်ကိုဖြစ်စေ၊ ယုတ်စွအဆုံး မည်သို့သောသူကိုမဆို အလ္လာဟ်အရှင်နဲ့ ထိုအရှင်ရဲ့ ဂုဏ်တော်တွေ၊ လုပ်ပိုင်ခွင့်တွေမှာ တန်းတူထားပြီး မှတ်ယူယုံကြည်ခြင်းဟာ တုဖက်ကိုးကွယ်ခြင်းပဲ ဖြစ်ပါတယ်။ အဲဒီတုဖက်ကိုးကွယ်ခြင်းကို အရှင်မြတ်က ဘယ်သောအခါမျှ ခွင့်လွှတ်တော်မူမှာမဟုတ်ပါ။ အဲဒီလုပ်ရပ်မှအပ အခြားသော အကုသိုလ်တွေကိုတော့ အရှင်မြတ်က ခွင့်လွှတ်တော်မူလိုပါက ခွင့်လွှတ်တော်မူမည်သာဖြစ်ပါတယ်။ အလ္လာဟ်အရှင် မြတ်အား တုဖက်နှိုင်းယှဉ်ကိုးကွယ်ခြင်းကို ကျွန်တော်တို့ရဲ့ ဦးနှောက်က အလွန်ဆိုးရွားတဲ့ မကောင်းမှုလို့ မှတ်ယူထားသလို ကျွန်တော်တို့ကိုယ်တိုင်လည်း အလွန်ပင် အမုန်းထားတဲ့ လုပ်ရပ်လည်း ဖြစ်ပါတယ်။

## သာဓကတစ်ခု

ဥပမာအားဖြင့် လူတစ်ယောက်ရဲ့ဇနီးဟာ အလွန်ပဲ မောက်မာသူဖြစ်ပြီး သာမန်ကိစ္စလေးနဲ့လည်း ပြဿနာရှာတတ်တယ်။ ပြောစကားလည်း နားထောင်တတ်သူမဟုတ်

ဘူး။ ဒါနဲ့ ခင်ပွန်းက သူမကို အိမ်ပေါ်ကဆင်းလို့ပြောတဲ့အခါ သူမက 'ကျွန်မကို ရှင်ပဲပိုင်ပါတယ်။ တစ်သက်လုံးလဲ ရှင်သာပိုင်ဆိုင်ရမှာပါ။ ရှင့်ရဲ့တံခါးဝမှာပဲ ကျွန်မသေဆုံးခွင့် ရချင်တယ်။ ရှင်ဘယ်လိုပဲမောင်းနှင်ပါစေ၊ ကျွန်မကတော့ ခဏတစ်ဖြုတ်တောင် ဒီကနေထွက်သွားမှာ မဟုတ်ပါဘူး ရှင်'လို့ပြောရင် ခင်ပွန်းက ဒေါသဖြစ်တာမှန်ပေမယ့် အဲဒီဇနီး ကိုပဲ ဆက်လက် ပေါင်းသင်းမှာ ဖြစ်ပါတယ်။

နောက်လူတစ်ယောက်ရဲ့ ဇနီးဟာ အလွန်ပဲအပြု အစုကောင်းပြီး ခင်ပွန်းရဲ့ အမိန့်ကို လည်းနာခံတယ်။ အချိန် တိုင်း ခင်ပွန်းကိုဂရုစိုက်တယ်။ ခင်ပွန်းဖြစ်သူ အိမ်ပြန် နောက်ကျတဲ့ ညနက်ပိုင်းဆိုလည်း ထိုင်စောင့်နေတတ် တယ်။ ပြီးတော့ ခင်ပွန်းစားသောက်ဖို့ စားသောက် ဖွယ်ရာ တွေနွှေးပြီး တည်ခင်းတယ်။ ကြင်နာတဲ့ စကားတွေလည်း ပြောတယ်။ တစ်နေ့ အဲဒီဇနီးက ခင်ပွန်းကို 'ရှင်ဟာ ကျွန်မ ရဲ့ ဘဝလက်တွဲဖော်ဖြစ်ပေမယ့် ကျွန်မအဖို့တော့ ရှင်တစ် ယောက်ထဲနဲ့ မတင်းတိမ်နိုင်လို့ အိမ်အနားက သူတစ်

ယောက်ကို ဒီနေ့ကစပြီး လက်တွဲဖော်လုပ်လိုက်တယ်’လို့ ပြောရင် ခင်ပွန်းဟာ မခံချင်စိတ်အနည်းငယ်သာ ရှိတတ်တဲ့ သူဆိုရင်တောင် ဒီကိစ္စမျိုးကို လုံးဝသီးခံမှာမဟုတ်ပါဘူး။ ပြီးတော့ ဒီလိုအရှက်မဲ့တဲ့ ဇနီးကို သူ့အနီးနားမှာ တစ်စက္ကန့် တောင်ထားမှာမဟုတ်ဘူး။

ဒီလို ဘာလို့ဖြစ်ရသလဲ။ ဘယ်ခင်ပွန်းပဲဖြစ်ဖြစ် မိမိ ရဲ့ ရပိုင်ခွင့်တွေမှာ အခြားတစ်ယောက် ပူးပေါင်းပါဝင် လာတာကို မြင်တွေ့လိုစိတ် မရှိကြပါဘူး။ စဉ်းစားကြည့်ပါ လေ။ ကိုယ်တိုင်က သုတ်ရည်တစ်စက်နဲ့ ဖန်ဆင်းခြင်းခံခဲ့ ရသူဖြစ်ပေမယ့် အခြားသူတစ်ယောက်ကို ကိုယ်နဲ့အဆင့်တူ သတ်မှတ်ဖို့ မနှစ်သက်ဘူးဆိုရင် အဲဒီလူသားကို ဖန်ဆင်းခဲ့ တဲ့ အရှင်မြတ်က အခြားအရာတစ်ခုကို မိမိနဲ့တန်းတူထားပြီး ကိုးကွယ်နေတာကို ဘယ်လိုများ သီးခံပါ့မလဲ ဆိုတာ တွေးဆကြည့်ပါလေ။

နောက်ထပ်ဥပမာတစ်ခု ပြောပါရစေ။ ပြည့်တန်ဆာ မတစ်ယောက်ဟာ သူမရဲ့ အရှက်သိက္ခာကို ရောင်းစားပြီး

သူမထံ လာသမျှသူတွေကို စိတ်တိုင်းကျ အသုံးချခံတဲ့ အတွက် ကျွန်တော်တို့ ပတ်ဝန်းကျင်မှာ ပြည့်တန်ဆာလို့ သတ်မှတ်ထားခံရသူတွေဟာ သိက္ခာမဲ့သူတွေ သာဖြစ်ပါ တယ်။ ဒါဆိုရင် မိမိရဲ့ဖန်ဆင်းရှင်ကိုစွန့်လွှတ်ပြီး နတ်ဖြစ် စေ၊ ရုပ်ပွားဆင်းတုဖြစ်စေ အခြားသော အရာတစ်ခုကို ကိုးကွယ်နေကြသူတွေဟာ ဖန်ဆင်းရှင်ရဲ့ ရှေ့မှောက်မှာ အဲဒီသူတွေဟာ ကျွန်တော်ပမာပေးထားတဲ့ ပြည့်တန်ဆာ ထက် ပိုပြီးတော့ နိမ့်ကျသူတွေပဲ မဟုတ်လား။

## ကျမ်းတော်မြတ်ကုရ်အာန်က ရုပ်ပွားဆင်းတု ကိုးကွယ်မှုအား ဆန့်ကျင်ခြင်း

ရုပ်ပွားဆင်းတု ကိုးကွယ်ခြင်းနဲ့ ပတ်သက်လို့ ကျမ်းတော်မြတ်ကုရ်အာန်မှာ စဉ်းစား ဆင်ခြင်သင့်တဲ့ ဥပမာ တစ်ခု တင်ပြထားပါတယ်။ အဲဒါကတော့

'မုချကေန် အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့ ဟစ်ခေါ်(တသ ဆည်းကပ် ကိုးကွယ်လျှက်ရှိ) ကြသောအရာ များမှာ ၎င်းတို့အားလုံး (တစ်စည်းတစ်လုံးတည်း) စုရုံး

ကြိုးပမ်း အားထုတ်ကြသည့်တိုင်အောင် ယင်ကောင်တစ်ကောင်ကိုမျှပင် အလျှင်းဖန်ဆင်းနိုင် ကြမည်မဟုတ်ပေ။ ထိုမှတစ်ပါး အကယ်၍ ထိုယင်ကောင်သည် ၎င်းတို့ထံမှ တစ်စုံတစ်ရာကို လုယူပါလျှင် (သုတ်ယူသွားပါလျှင်) ၎င်းတို့သည် ယင်းအရာကိုပင် ထိုယင်ကောင်၏ထံမှ ပြန်လုယူနိုင်ကြမည် မဟုတ်ချေ။ ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်)သောသူနှင့် ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်) ခြင်းခံရသောသူတို့သည် အားနည်းချည့်နဲ့ကြပေတကား။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား ရှိသေကိုင်းရှိုင်းရန် တာဝန်ရှိသည်နှင့်အညီ ရှိသေကိုင်းရှိုင်းကြသည်မဟုတ်ပေ။ စေကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ခွန်အားပြည့်စုံတော်မူသော၊ တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။'

**(ကျမ်းတော်မြတ်ကုရ်အာန် - ၂၂း ၇၃-၇၄)**

ဒီကျမ်းစာ ဖော်ပြချက်ဟာ အလွန်ကောင်းတဲ့ သာဓကတစ်ခုဖြစ်ပါတယ်။ ဖန်ဆင်းတဲ့ အရှင်က အလ္လာဟ်

အရှင်မြတ်သာ ဖြစ်တော်မူပါတယ်။ အသင်တို့ လက်နဲ့ ပြုလုပ်ထားတဲ့ ရုပ်ပွားဆင်းတုတွေကို ဖန်ဆင်းတဲ့အရှင်က လည်း ငါအရှင်မြတ်သာ ဖြစ်တော်မူတယ်။ အကယ်၍ အဲဒီ ရုပ်ပွားဆင်းတုတွေမှာ အနည်းငယ်သာ အသိတရားရှိမယ်ဆို ရင် အဲဒီရုပ်ပွားဆင်းတုတွေဟာလည်း ငါအရှင်မြတ်ကိုသာ ကိုးကွယ်ဆည်းကပ်ကြမှာဖြစ်တယ်။

## အားနည်းတဲ့ အတွေးအခေါ်တစ်ခု

အချို့ကလည်း ဒီလိုယုံကြည်ထားကြတယ်။ အဲဒါ ကတော့ သူတို့ဟာ ရုပ်ပွားဆင်းတုတွေကို ဆည်းကပ် ကိုးကွယ်တာက အဲဒီရုပ်ပွားဆင်းတုတွေက သူတို့ကို ထာဝရ ဘုရားရှင်ရဲ့ လမ်းကိုပြသပေးပြီး ၎င်းတို့ရဲ့အကြောင်းခံနဲ့ သူတို့ဟာ ဖန်ဆင်းရှင်ရဲ့ ချီးမြှင့်မှုတွေကို ရရှိလို့ပဲ ဖြစ်တယ် ဆိုတဲ့ ယုံကြည်ချက်ပါ။

အဲဒီလို ယုံကြည်ချက်က ဒီဥပမာလိုဖြစ်နေတယ်။ ခရီးသည်တစ်ယောက်က ဘူတာတစ်ခုမှာ ရထားအချိန်တွေ နဲ့ ပတ်သက်ပြီး အထမ်းသမားတစ်ဦးကိုမေးမြန်းတယ်။

အထမ်းသမားကလည်း သူသိတဲ့ ရထားအချိန်တွေကို ပြောပြတာပေါ့။ အဲဒီအခါခရီးသည်က ရထားမစီးတော့ဘဲ အထမ်းသမားကျောကုန်းပေါ် တက်စီးပါလေရော။ ဒီအတိုင်း ပဲ အလ္လာဟ်အရှင်မြတ်ရဲ့ စစ်မှန်တဲ့တည်နေရာနဲ့ လမ်းမှန် ကိုပြသပေးသူကို ကိုးကွယ်ဆည်းကပ်ခြင်းဟာ ရထားစီး ရမယ့်အစား အထမ်းသမားကျောကုန်းပေါ် တက်စီးတဲ့ ခရီး သည်လိုပါပဲ။

ညီနောင်အချို့ကလည်း ဒီလိုပြောကြတာရှိတယ်။ သူတို့ဟာ အာရုံတည်ငြိမ်ဖို့နဲ့ စူးစိုက်မှုရဖို့ ရုပ်ပွားဆင်းတု တွေကို မိမိတို့ရဲ့ရှေ့မှောက်မှာ ထားကြတာလို့ဆိုကြတယ်။ ဒါဟာ ဘာနဲ့တူသလဲဆိုရင် ဖခင်ကိုအာရုံရဖို့ တိရစ္ဆာန် တစ်ကောင်ကို ကြည့်နေသလိုပဲပေါ့။ ဖခင်နဲ့တိရစ္ဆာန်က ဘယ်လိုများ ပတ်သက်မှုရှိနေပါသလဲ။ အဲဒီလိုပဲ အရာရာကို လွှမ်းမိုး နိုင်တော်မူသော၊ သနားကြင်နာတော်မူသော ဖန်ဆင်းရှင်နဲ့ အားအင်ချည့်နဲ့တဲ့ ရုပ်ပွားဆင်းတုတွေဟာ ဘယ်လိုမှပတ်သက်မှုမရှိပါဘူး။ အဲဒီသူတွေပြောတဲ့နည်းနဲ့

အတွေးအာရုံ စုစည်းနိုင်မလား ဒါမှမဟုတ် အတွေးအာရုံထဲမှာ လွှင့်မျောနေမလား စဉ်းစားသင့်ပါတယ်။

ဘယ်လိုပဲဖြစ်ဖြစ် တစ်စုံတစ်ခုဖြစ်စေ၊ တစ်ဦးတစ်ယောက်ကိုဖြစ်စေ ဖန်ဆင်းရှင်နဲ့ တန်းတူထားပြီး ယုံကြည်ခြင်းဟာ ကြီးမားတဲ့ပြစ်မှုတစ်ရပ်ပါ။ အဲဒီပြစ်မှုကို အရှင်မြတ်က ဘယ်တော့မှ ခွင့်လွှတ်မှာမဟုတ်ဘူး။ အဲဒီလိုယုံကြည်ချက်ရှိသူဟာ ငရဲဘုံမှာအမြဲထာဝရ ထင်းအဖြစ်သာ ရှိနေမှာပဲဖြစ်ပါတယ်။

## အကောင်းဆုံးသော ဒါနဟာ (အီမာန်)ယုံကြည်မှုပဲ ဖြစ်ပါတယ်

အကြီးမားဆုံးသော ကောင်းမှုဟာ အီမာန်ယုံကြည်မှုပဲ ဖြစ်ပါတယ်။ အဲဒီယုံကြည်မှုနှင့် ပတ်သက်ပြီး တစ်လောကလုံးမှာရှိတဲ့ ဘာသာဝင်တိုင်းက လူဆိုတာ သေဆုံးပြီဆိုရင် အရာအားလုံးကို ဒီလောကထဲမှာ ထားရစ်ခဲ့ရမှာပါ၊ အတူယူဆောင်သွားရမှာကတော့ ယုံကြည်မှုပဲဖြစ်တယ်လို့ ဆိုကြပါတယ်။ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်တဲ့

အီမာန်(ယုံကြည်သူ)ရှိတဲ့ မုစ်လင်မ်တွေအဖို့တော့ အဲဒီ အီမာန်ကိုပဲ ယူဆောင်သွားမှာပါ။ အီမာန်ရှင် ဆိုတာ ဝတ္တရားရှင်ကို ၎င်းရဲ့ရပိုင်ခွင့်တွေ ပေးအပ်သူကို ခေါ်ဆိုတာ ဖြစ်တယ်။ အဲဒီဝတ္တရားကို ချိုးဖောက်သူကိုတော့ ကွာလင်မ် (မတရားမှုကျူးလွန်သူ)လို့ ခေါ်ဆိုပါတယ်။ လူသားတွေ အပေါ်မှာ အကြီးမားဆုံးတင်ရှိတဲ့ ဝတ္တရားကတော့ ဖန်ဆင်း ရှင်ကို ပေးအပ်ရမယ့်ဝတ္တရားပဲ ဖြစ်ပါတယ်။ အဲဒီလို ပေးအပ်ရမယ့် ဝတ္တရားဆိုတာက အရာအားလုံးကို ဖန်ဆင်း တဲ့အရှင်၊ သေခြင်းနဲ့ရှင်ခြင်းကို ပေးအပ်သောအရှင်၊ ပြုစု ပျိုးထောင်ပေးသောအရှင်နဲ့ ကိုးကွယ်ခြင်း ခံထိုက်သော အရှင်မြတ်က တစ်ပါးတည်း တည်ရှိတော်မူတဲ့ အလ္လာဟ် အရှင်မြတ်သာဖြစ်လို့ အဲဒီအရှင်မြတ်ကိုသာ ကိုးကွယ်ရမယ် ဆိုတာပဲဖြစ်ပါတယ်။ အဲဒီအရှင်ကိုသာ အကောင်း အဆိုး ဟူသမျှရဲ့ ပိုင်ရှင်၊ သိက္ခာနဲ့ သေးသိမ်မှုကို ပေးသောအရှင်လို့ မှတ်ယူရမှာပါ။ အခုလို ကျွန်တော်တို့ကို ပေးအပ်ထားတဲ့ သက်တမ်းကို အဲဒီအရှင်ရဲ့ ကျေနပ်မှု၊ အဲဒီအရှင်ရဲ့ အမိန့်

တော်တွေကို နာခံမှုတွေနဲ့သာ ကုန်ဆုံးရမှာဖြစ်ပါတယ်။ အဲဒီအရှင်ကိုသာ ယုံကြည်ရမယ်။ အဲဒီအရှင်ရဲ့ အမိန့်တော်တွေကိုသာ ယုံကြည်နာခံရမှာဖြစ်တယ်။ အဲဒီလိုယုံကြည်မှုထားတာကို အီမာန်လို့ခေါ်တာပဲဖြစ်တယ်။ အဲဒီလို အလ္လာဟ်အရှင်အပေါ်မှာ သီးသန့် ယုံကြည်မှု မထားဘဲ၊ အဲဒီအရှင်ရဲ့ အမိန့်တော်တွေကို မနာခံဘဲ လူသားတစ်ယောက်ဟာ အီမာန်ရှင် မဖြစ်နိုင်ပါဘူး။ အီမာန်မဲ့သူပဲ ဖြစ်ပါလိမ့်မယ်။

စိုးပိုင်တော်မူသော အရှင်ရဲ့ အကြီးမားဆုံးသော ဝတ္တရားကို ချိုးဖောက်ပြီး လူတွေရဲ့ ရှေ့မှောက်မှာ သစ္စာသမာဓိရှိတယ်ဆိုပြီး ပြသနေတာဟာ အခုဖော်ပြမယ့် ဥပမာထဲကလူလိုပဲ ဖြစ်မှာပါ။ ဓားပြတစ်ယောက်ဟာ အကြီးအကျယ် ဓားပြတိုက်မှုတွေပြုပြီး ချမ်းသာလာတယ်။ အဲဒီနောက်မှာ သူဟာ အရောင်းဆိုင်တစ်ခုသွားပြီး ဆိုင်ပိုင်ရှင်ကို အဲဒီဆိုင်ပိုင်ရှင်ထံကနေ ငွေကြေးအချို့ သူ့ဆီမှာပါလာတဲ့အတွက် ပြန်လာပေးတာပါလို့ပြောတယ်။ ဒါဆိုရင် အဲဒီ

ခေါးပြပဟာ ငွေကြေးအမြောက်အများ ခေါးပြတိုက်လာခဲ့ပြီးမှ ဘာမျှမမယ်တဲ့ နှစ်ပဲခြောက်ပြားကို စာရင်းပြန်ပေးသလို ဖြစ်မနေဘူးလား။ အရှင်မြတ်ရဲ့ ဝတ္တရားတွေကို ချိုးဖောက်ပြီး လူတွေရဲ့ရှေ့မှာ သစ္စာတိုင်ပြသူရဲ့ အီမာန်ကလည်း အဲဒီလိုပဲဖြစ်နေမှာပါ။ မိမိရဲ့ပိုင်ရှင် အစစ်အမှန်ကို စွန့်လွှတ်ပြီး အခြားသူတစ်ဦးကို ကိုးကွယ်ဆည်းကပ်တာလည်း အဲဒီ ထက်ပိုဆိုးတဲ့ သစ္စာမဲ့ခြင်းဖြစ်တယ်။

အီမာန်ဆိုတာ လူသားက မိမိရဲ့ပိုင်ရှင်အစစ်ကို တစ်ပါးတည်းလို့ယုံကြည်ပြီး အဲဒီတစ်ပါးတည်းသော အရှင်သခင်ကိုသာ ကိုးကွယ်ဆည်းကပ်ပြီး မိမိဘဝသက်တမ်းရဲ့ နာရီ၊ စက္ကန့်တိုင်းမှာ ပိုင်ရှင်ရဲ့ ကျေနပ်နှစ်သက်မှု၊ အမိန့် နာခံမှုတို့နဲ့ ကုန်ဆုံးခြင်းကို ခေါ်ဆိုတာဖြစ်တယ်။ ဒါ့အပြင် ပိုင်ရှင်က ချီးမြှင့်ထားတဲ့ သက်တမ်းကို အဲဒီပိုင်ရှင်ရဲ့ ကျေနပ်မှုအတိုင်း ကုန်ဆုံးစေတာကို သာသနာလို့ခေါ်ဆိုပါတယ်။ အဲဒီလိုမဟုတ်ဘဲ မိမိအရှင်သခင်ရဲ့ အမိန့်တော်တွေ

ကို ဖီဆန်မယ်ဆိုရင်တော့ သူ့ကို ဘာသာမဲ့သူလို့ပဲ ခေါ်ဆို ရမှာပါ။

## စစ်မှန်သော သာသနာ

စစ်မှန်တဲ့ သာသနာက အဦးအစကတည်းက တစ်ခု တည်းပဲရှိတာပါ။ အဲဒီသာသနာက တစ်ပါးတည်းသော အရှင်ကိုသာယုံကြည်ပြီး အဲဒီအရှင်ရဲ့ အမိန့်တော်တွေကို နာခံကျင့်သုံးရမယ်လို့ သင်ကြားပေးပါတယ်။ တစ်ပါးတည်း ရှိတော်မူတဲ့ အလ္လာဟ်အရှင်မြတ်ရဲ့ ထံတော်ပါးမှာရှိတဲ့ တစ်ခုတည်းသော သာသနာက အစ္စလာမ်သာသနာပဲဖြစ် တယ်လို့ သန့်စင်မွန်မြတ်တဲ့ ကျမ်းတော်မြတ်ကုရ်အာန်မှာ အမိန့်တော်လာရှိပါတယ်။ အဲဒီသာသနာက လွဲလို့ အခြား ဘယ်သာသနာကိုမှ အလ္လာဟ်အရှင်မြတ်ရဲ့ထံတော်ပါးမှာ အသိအမှတ်မပြုဘူးလို့ တစ်ဆက်တည်းမိန့်တော်မူပါတယ်။

**(ကျမ်းတော်မြတ်ကုရ်အာန် ၃း၈၅)**

လူသားရဲ့ အားနည်းချက်တွေကတော့ သူရဲ့မျက်စိ ဟာ အတိုင်းအတာတစ်ခုအထိပဲ မြင်နိုင်တယ်၊ နားဟာ

လည်း အတိုင်းအတာတစ်ခုထိပဲ ကြားနိုင်သလို ရှုရှိုက်နိုင်စွမ်း၊ မြည်းစမ်းနိုင်စွမ်းနဲ့ ထိတွေ့စမ်းသပ်နိုင် စွမ်းတွေမှာလည်း အတိုင်းအတာတစ်ခုအထိသာ ရှိပါတယ်။ အဲဒီအာရုံငါးပါးကနေတစ်ဆင့် ဦးနှောက်ကို အသိပို့ပေးတယ်။ အဲဒီဦးနှောက်ရဲ့ လုပ်ဆောင်နိုင်မှုကလည်း အတိုင်းအတာတစ်ခုအထိပဲရှိပါတယ်။

စိုးပိုင်တော်မူသော အရှင်က ဘယ်လိုဘဝကိုနှစ်သက်တော်မူတယ်၊ အဲဒီအရှင်ကို ဘယ်ပုံဘယ်နည်းကိုးကွယ်ဆည်းကပ်ရမယ်၊ သေပြီးတဲ့နောက် ဘာတွေဆက်ဖြစ်မယ်၊ လူသားကို ဂျန္နသ်သုခဘုံ ဒါမှမဟုတ် ဂျဟန္နမ်ငရဲဘုံကို ခေါ်ဆောင်သွားမယ့်အရာတွေက ဘာတွေလဲဆိုတဲ့ကြောင်းခြင်းရာတွေကို လူသားရဲ့ဦးနှောက်နဲ့ အဲဒီလူသားကိုယ်တိုင်ပင် အလုံးစုံပြည့်ဝစွာ သိအောင် လုပ်နိုင်စွမ်းရှိတာမဟုတ်ပါ။

## စေတမန်တော်

လူသားတွေရဲ့ အထက်ဖော်ပြပါ အားနည်းချက်ကို ငဲ့ညှာပြီး ဖန်ဆင်းရှင်က စေတမန်တော်တွေကို လူသားတွေထဲကပဲ ရွေးချယ်ပြီး စေလွှတ်တော်မူခဲ့တယ်။ ပြီးတဲ့နောက် အဲဒီစေတမန်တော်တွေထံကို ကောင်းကင်တမန်က တစ်ဆင့် မိမိရဲ့ဗျာဒိတ်တော်တွေ ပို့ချပေးတော်မူတယ်။ စေတမန်တော်တွေအားလုံးဟာ လူသားတွေကို ဘဝတည်ဆောက်နည်းနဲ့ ခဝပ်ကိုးကွယ်နည်းတွေ ပြန်လည်သင်ကြားပြသပေးခဲ့ကြတယ်။ ဒါ့အပြင် လူသားရဲ့ ဦးနှောက်ကို အခြေခံပြီး မသိရှိနိုင်တဲ့ ကြောင်းခြင်းရာတွေကိုလည်း ပို့ချပေးခဲ့ကြတယ်။ ဖန်ဆင်းရှင်ရဲ့ ရွေးချယ်စေလွှတ်ခြင်းခံရတဲ့ မဟာလူသားတွေကို နဗီတမန်တော်တွေလို့ ခေါ်ဆိုကြပါတယ်။ အောင်ဝ်သာရ်လို့လည်း ခေါ်ဆိုလေ့ရှိပါတယ်။ လူတိုင်းကိုတော့ အဲဒီလို ခေါ်လို့မရပါဘူး။ အောင်ဝ်သာရ်ဆိုတာ ဖန်ဆင်းရှင်ထံက ဗျာဒိတ်တော်တွေ ပို့ချခြင်းခံရသူကိုသာ သီးသန့်ခေါ်ဆိုတာဖြစ်တယ်။ ဒီနေ့ခေတ်မှာ အောင်ဝ်သာရ်

ဆိုတာ ကိုယ်တိုင်ဘုရားဖြစ်သူ ဒါမှမဟုတ် ဘုရားသခင်ဟာ မိမိရဲ့ရုပ်ကလပ်နဲ့ မြေပြင်ကို ဆင်းသက်လာတယ်ဆိုပြီး လွဲမှားစွာ အဓိပ္ပာယ်ကောက်ယူမှုတွေရှိနေပါတယ်။ ဒါဟာ အမြင့်ကန်းခြင်းသက်သက်သာ ဖြစ်ပါတယ်။ အဲဒီလိုအမြင် ကန်းခြင်းကပဲ လူသားကို တစ်ပါးတည်းတည်ရှိတော်မူတဲ့ ဖန်ဆင်းရှင်ကို ကိုးကွယ်ရမယ့်အစား ရုပ်ပွားဆင်းတု ကိုးကွယ်ခြင်းမှာ နစ်မွန်းစေတာပဲ ဖြစ်ပါတယ်။

အလ္လာဟ်အရှင်မြတ်ရဲ့ ထံတော်ကနေ လူသားတွေကို လမ်းမှန်ပြသဖို့ ရွေးချယ်ပြီး စေလွှတ်ခြင်းခံရသူတွေကို နဗီတွေ၊ ရစူလ်တွေလို့ ခေါ်ပါတယ်။ သူတို့ဟာ နေရာတိုင်း၊ ခေတ်သမယတိုင်းမှာ လောကကို ရောက်ရှိလာခဲ့ကြပါတယ်။ သူတို့အားလုံးက လူသားတွေကို တစ်ပါးတည်းရှိတော်မူတဲ့ အရှင်မြတ်ကို ယုံကြည်သက်ဝင်ရန်၊ အဲဒီအရှင်မြတ်ကိုသာ ကိုးကွယ်ကြရန် ဟောပြောပို့ချကြသလို အဲဒီအရှင်မြတ်ရဲ့ ကျေနပ်နှစ်သက်မှု့ကို ရရှိစေဖို့ ဘဝတစ်လျှောက် ဘယ်ပုံစံတွေနဲ့ ကုန်ဆုံးစေရမလဲဆိုတဲ့ နည်း

ဥပဒေတွေကိုလည်း ယူဆောင်ပြသခဲ့ကြတယ်။ အဲဒီဥပဒေ (ရှရီအသ်)နဲ့ကိုက်ညီစွာ နေထိုင်ကျင့်သုံးကြဖို့လည်း ဆိုဆုံးမခဲ့တယ်။ ဒီလောကကို ရောက်ရှိလာတဲ့ ဘယ်နဗီ၊ ဘယ်ရစူလ်ကမှ အလ္လာဟ်အရှင်မြတ်ကလွဲပြီး အခြားသူတစ်ဦးတစ်ယောက်ကို ကိုးကွယ်ဆည်းကပ်ဖို့ ဖိတ်ခေါ်ခြင်း မပြုခဲ့ကြပါဘူး။ အဲဒီလိုဖိတ်ခေါ်တာမျိုး မပြုခဲ့တဲ့အပြင် လူသားတွေ ကျူးလွန်မိကြတဲ့ အပြစ်တွေထဲမှာ တစ်ပါးတည်း တည်ရှိတော်မူတဲ့ အလ္လာဟ်အရှင်မြတ်နဲ့ အခြားသောအရာဖြစ်စေ၊ လူပုဂ္ဂိုလ်ဖြစ်စေ တစ်စုံတစ်ခုကို ယှဉ်တွဲနှိုင်းယှဉ်ခြင်းဟာ အကြီးမားဆုံးသော အပြစ်ဖြစ်ကြောင်း သတိပေးပြီး တားမြစ်ခဲ့ကြတာချည်းပဲဖြစ်ပါတယ်။ အဲဒီ တမန်တော်တွေရဲ့ စကားရပ်တွေကို ယုံကြည်ပြီး လှမ်းမှန်အပေါ်မှာ လျှောက်လှမ်းသွားကြသူတွေလည်း မရေမတွက်နိုင်အောင် ရှိခဲ့ပါတယ်။

## ရုပ်ပွားဆင်းတု ကိုးကွယ်ခြင်းရဲ့အစ

အထက်မှာဖော်ပြခဲ့တဲ့ တမန်တော်တွေအားလုံးနဲ့ သူတို့ကို လက်ခံယုံကြည်သူတွေဟာ လူသားတွေပဲဖြစ်ပါတယ်။ သူတို့အားလုံးဟာ သေခြင်းတရားကို ရှောင်လွဲလို့ မရပါဘူး။ (အမြဲထာဝရရှင်သန်နေမှာက အလ္လာဟ်အရှင်မြတ်သာ ဖြစ်တော်မူပါတယ်။)။ ဒီလိုနဲ့ တမန်တော်တွေကွယ်လွန်သွားတဲ့အခါ သူတို့ကိုယုံကြည်သူတွေက သတိရလွမ်းဆွတ်ပြီး အလွန်ပဲ ငိုကြွေးတမ်းတကြတယ်။ ဒီမှာပဲ ရှိုင်သွာန်မိစ္ဆာကောင်လည်း လူသားကိုဖျက်ဆီးဖို့ အခွင့်အရေးယူလိုက်တယ်။ ရှိုင်သွာန်က လူသားရဲ့ရန်သူဖြစ်ပါတယ်။ အဲဒီ ရှိုင်သွာန်က လူသားတွေကို လှည့်စားမယ်၊ လူတွေရဲ့ နှလုံးသားတွေထဲမှာ မကောင်းတာတွေ ကြီးစိုးစေဖို့ အမြဲ ကြံစည်နေလေ့ရှိတယ်။ အလ္လာဟ်အရှင်မြတ်က လူသားတွေကို စမ်းသပ်ရန် ရှိုင်သွာန်ကို အခွင့်ပေးထားတာပါ။ ဒီလိုနဲ့ ဘယ်သူကတော့ ဖန်ဆင်းရှင်ကို ယုံကြည်ပြီး

ဘယ်သူကတော့ ရှိုင်သွာန်ရဲ့ ပရိယာယ်အတိုင်း နာခံသလဲ ဆိုတာ အရှင်မြတ်ကကြည့်တော်မူတယ်။

အထက်ကပြောခဲ့သလို တမန်တော်တွေ ကွယ်လွန်သွားပြီးနောက်မှာ ရှိုင်သွာန်က လူတွေဆီရောက်လာပြီး 'အသင်တို့ဟာ မိမိတို့ရဲ့ တမန်တော်ကို အလွန်အချစ်ထားကြတယ်။ အခုတော့ အဲဒီတမန်တော်ဟာ အသင်တို့ရဲ့ မြင်ကွင်းက ပျောက်ကွယ်သွားပြီ။ ဒါကြောင့် ကျွန်တော်က အသင်တို့ စိတ်ဖြေသိမ့်ရာရစေဖို့ အဲဒီတမန်တော်ရဲ့ ရုပ်ပွားဆင်းတုလုပ်ပေးမယ်'လို့ပြောတယ်။ ဒီလိုနဲ့ ရှိုင်သွာန်က ရုပ်ထုလုပ်ပေးတယ်။ လူတွေလည်း တမန်တော်ကို သတိရတဲ့အခါ အဲဒီရုပ်ထုကို ကြည့်ကြတာပေါ့။ ဒီလိုနဲ့ အချိန်ကြာလာတော့ လူတွေရဲ့ နှလုံးသားထဲမှာ ရုပ်ထုကို တစ်စထက်တစ်စ အချစ်စိတ်ကိန်းအောင်းလာတယ်။ အဲဒီအခါမှာ ရှိုင်သွာန်က 'အသင်တို့ အဲဒီရုပ်ထုရှေ့မှာ မိမိတို့ရဲ့ ဦးခေါင်းကို ညွှတ်မယ်ဆိုရင် ဘုရားသခင်ကို ခံစားရလိမ့်မယ်'လို့ ပြောတယ်။ ဒါနဲ့ လူတွေလည်း ယခင်ကတည်းက

နှလုံးသားထဲမှာ ရုပ်ထုကို ကြည်ညိုစိတ်က အမြစ်တွယ်ပြီး သားဆိုတော့ ရှိုင်သွာန်ပြောသလိုပဲ ရုပ်ထုရှေ့မှာ ဦးညွတ်ကြ တော့တယ်။ အဲဒီလိုနဲ့ပဲ ရုပ်ပွားဆင်းတု ကိုးကွယ်ခြင်းအစ ဖြစ်လာတာပါ။ လူသားတွေရဲ့ ကိုးကွယ်ဆည်းကပ်ခြင်း ခံယူ ထိုက်သူဟာ တစ်ပါးတည်းတည်ရှိတော်မူတဲ့ အလ္လာဟ် အရှင်မြတ်ပဲဖြစ်ပါတယ်။ အခုတော့အဲဒီလူတွေဟာ ဖန်ဆင်း ရှင်နဲ့ တုဖက်ကိုးကွယ်မှုကို ရုပ်ထုတွေရဲ့ရှေ့မှာ ဦးညွတ်ခြင်း နဲ့ နစ်မွန်းသွားပြီး အစပြုခဲ့တော့တယ်။ စကြာဝဠာအပေါင်း ရဲ့ ခေါင်းဆောင်ဖြစ်တဲ့ လူသားဟာ ကျောက်တုံးနဲ့ မြေကြီးရဲ့ ရှေ့မှောက်မှာ ဦးချခြင်းနဲ့ သေးသိမ်ယုတ်ညံ့သူ ဖြစ်သွားခဲ့ပါ တယ်။ အကျိုးဆက်ကတော့ အဲဒီသူဟာ ဖန်ဆင်းရှင်ရဲ့ ရွှေမန်ကင်းဘဝကနေ ကျဆင်းပြီး ငရဲမှာထင်းအဖြစ် ရာသက်ပန် သက်ဆင်းသွားတော့တယ်။ အဲဒီဖြစ်ရပ်နောက် မှာ အလ္လာဟ်အရှင်မြတ်က လူသားတွေထံကို မိမိရဲ့တမန် တော်တွေကို ထပ်မံစေလွှတ်တော်မူခဲ့တယ်။ လူသားတွေထံ ကို ရောက်ရှိလာတဲ့ တမန်တော်တွေဟာ လူသားတွေကို

ရုပ်ပွားဆင်းတု ကိုးကွယ်ခြင်းမပြုဖို့ တားမြစ်ဆုံးမကြတယ်။ အဲဒီအခါမှာ တစ်ချို့ကလက်ခံပြီး တစ်ချို့ကတော့ လက်မခံဘဲ ငြင်းဆန်ခဲ့ကြတယ်။ လက်ခံတဲ့သူတွေကို အလ္လာဟ် အရှင်မြတ်က ကျေနပ်နှစ်သက်တော်မူပြီး လက်မခံတဲ့သူတွေကိုတော့ မိမိရဲ့အမိန့်တော်တွေနဲ့ အရေးယူအပြစ်ပေးခဲ့တယ်။

## ရစူလ်တမန်တော်တွေရဲ့ သွန်သင်မှုများ

လူသားများထံသို့ နဗီတမန်တော်များ တစ်ပါးပြီးတစ်ပါး ကြွမြန်းလာခဲ့ကြသလို ၎င်းတမန်တော်များရဲ့ အခြေခံအချက်က တစ်ခုတည်းသာ၊ ၎င်းတို့ဖိတ်ခေါ်တဲ့ သာသနာကလည်း တစ်ခုတည်းပါ။ ဆိုလိုတာက 'တစ်ပါးတည်းသောအရှင်ကိုသာ ယုံကြည်ဖို့၊ အဲဒီ အရှင်နဲ့ အရှင့်ရဲ့ဂုဏ်တော်များထဲမှာ မည်သူကိုမျှ ခွဲဝေပိုင်ဆိုင်သူအဖြစ် လက်မခံကြဖို့၊ အဲဒီအရှင်ကို ကိုးကွယ်ရာမှာ မည်သူကိုမျှမပူးပေါင်းဘဲ သီးသန့်ပြုကြဖို့၊ အဲဒီအရှင်က စေလွှတ်တော်မူတဲ့ တမန်တော်တွေအားလုံးကို မှန်ကန်ကြောင်း ယုံကြည်ဖို့၊ အဲဒီ

အရှင်ရဲ့ သန့်ပြန့်တဲ့ ဖန်ဆင်းခံများဖြစ်ကြတဲ့ ကောင်းကင်တမန်တွေကို ယုံကြည်ဖို့၊ ၎င်းကောင်းကင်တမန်တွေဟာ စားခြင်း၊ သောက်ခြင်း၊ အိပ်စက်အနားယူခြင်း မရှိကြသလို လုပ်ရပ်တိုင်းမှာလည်း အမိန့်နာခံမပျက် ရှိနေတယ်ဆိုတာကိုလည်း ယုံကြည်ရမှာဖြစ်တယ်။ အဲဒီလိုပဲ အလ္လာဟ်အရှင်မြတ်က မိမိရဲ့ကောင်းကင်တမန်တွေကို အကြောင်းခံပြီး ချပေးတော်မူတဲ့ ဝဟီ(ဗျာဒိတ်တော်)တွေကိုလည်း မှန်ကန်ကြောင်း၊ သေပြီးတဲ့နောက်မှာ တစ်ဖန်ရှင်ပြန်ထရမှာဖြစ်ပြီး မိမိတို့ပြုခဲ့သမျှ အကောင်းအဆိုး လုပ်ရပ်အားလုံးရဲ့ အစားပြန်ရမှာ ဖြစ်ကြောင်းနဲ့ နဖူးစာကောင်းခြင်း၊ ဆိုးခြင်း သတ်မှတ်ချက်တွေဟာလည်း အလ္လာဟ်အရှင်မြတ်ရဲ့ စီမံတော်မူတဲ့အတိုင်းသာ ဖြစ်တယ်ဆိုတာကိုလည်း ယုံကြည်ရမှာဖြစ်တယ်။ ဒါ့အပြင် အခု ငါတမန်တော် ယူဆောင်လာတဲ့ ရှရီအဟ်(ခ)ဘာဝလမ်းညွှန်ချက်များအတိုင်း မိမိတို့ရဲ့သက်တမ်းတစ်လျှောက် လျှောက်လှမ်းကြပါ။' ဆိုပြီး ဖိတ်ခေါ်ပို့ချခဲ့ပါတယ်။

အလ္လာဟ်ရှင်မြတ်ရဲ့ တမန်တော် အားလုံးဟာ မှန်ကန်တဲ့ ပုဂ္ဂိုလ်မွန်တွေဖြစ်တယ်။ ၎င်းတမန်တော်တွေ အပေါ်ကျရောက်ခဲ့တဲ့ ထွန်းမြတ်သောကျမ်းစာများကလည်း အမှန်ပဲဖြစ်တယ်။ အဲဒီကျမ်းစာအုပ်အားလုံးကို ကျွန်တော်တို့ယုံကြည်ကြသလို တစ်ခုနဲ့တစ်ခု အဆင့်အတန်းခွဲခြားခြင်းလည်း မပြုကြပါ။ ၎င်းကျမ်းစာများ မှန်ကန်မှုရှိကြောင်း မှတ်ကျောက်ချိန်ခွင်မှာ ကျမ်းစာအားလုံးထဲတွင် တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်ကိုသာ ယုံကြည်ရန် ဖိတ်ခေါ်ကြတဲ့ တမန်တော်အားလုံးရဲ့ သွန်သင်မှုတွေထဲမှာ အခြားတစ်ဦးတစ်ယောက်ကို ကိုးကွယ်ကြဖို့၊ မိမိတို့ကို ကိုးကွယ်ကြဖို့ဆိုတဲ့ စကားရပ်တွေ လုံးဝမပါဝင်ခြင်းဘဲ ဖြစ်ပါတယ်။ ဒါကြောင့် တမန်တော်တွေက ရုပ်ပွားဆင်းတု ကိုးကွယ်ဖို့ ဒါမှမဟုတ် အရှင်သခင်များစွာကို ကိုးကွယ်ဖို့ဆိုပြီး သွန်သင်ပေးခဲ့တာ လုံးဝမဖြစ်နိုင်ပါ။ တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)မပွင့်ပေါ်မီအချိန်က ပွင့်ပေါ်ခဲ့တဲ့ တမန်တော်တွေဟာ အစစ်အမှန်တရားကိုသာ

ဟောပြောပို့ချပေမယ့် လူသားတွေက အဲဒီမူရင်းဟောပြော ချက်တွေထဲမှာ အပြောင်းအလဲတွေ ထည့်သွင်းခဲ့ကြသလို ကောင်းကင်ကျ ကျမ်းစာတွေထဲမှာလည်း မိမိတို့အလို အတိုင်း ပြောင်းလဲရေးသားပြီး ထည့်သွင်းခဲ့ကြတာ တွေ့ရှိပါ တယ်။

## နောက်ဆုံးပွင့်တော်မူခဲ့တဲ့ တမန်တော်မြတ် မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)

ဒီအချက်က အလွန်ကြီးမားတဲ့ အမှန်တရားတစ်ခုပါ။ ဘာလို့လဲဆိုတော့ ပွင့်ပေါ်ခဲ့သမျှ တမန်တော်တွေအားလုံး ကလည်း ထုတ်ဖော်ပြောဆိုခဲ့သလို ကျရောက်ခဲတဲ့ ကျမ်းစာ တွေ အားလုံးမှာလည်း နောက်ဆုံး တမန်တော်တစ်ပါး ပွင့်တော်မူမယ်လို့ ကြိုတင်ဖော်ပြထားပါတယ်။ ဒါတွင် သာမက အဲဒီနောက်ဆုံးတမန်တော် ပွင့်ပေါ်လာတဲ့အခါ ယခင်ကရှိပြီးသား သာသနာဟောင်းတွေနဲ့ အမိန့်ဥပဒေ ဟောင်းတွေကို စွန့်လွှတ်ပြီး သူ့ရဲ့ဟောပြောပို့ချမှုကို နာခံဖို့ နဲ့ သူယူဆောင်လာတဲ့ ကျမ်းစာနဲ့ သာသနာအတိုင်းသာ

နာခံလျှောက်လှမ်းကြဖို့လည်း မှာကြားခဲ့ကြပါတယ်။ ဒီအချက်က အစ္စလာမ်သာသနာဟာ မှန်ကန်မှုရှိကြောင်း အထောက်အထားတစ်ခုဖြစ်ပါတယ်။ ဘာလို့လဲဆိုတော့ ရှေးကရှိခဲ့တဲ့ ကျမ်းစာတွေမှာ အပြောင်းအလဲတွေ အများကြီးပြုလုပ်ခံထားရပေမယ့် အလ္လာဟ်အရှင်မြတ်က အဲဒီကျမ်းစာတွေထဲမှာ နောက်ဆုံးတမန်တော် ပွင့်တော်မူမယ့် အကြောင်းကိုတော့ ပြောင်းလဲခြင်း မရှိစေခဲ့လို့ပဲဖြစ်ပါတယ်။ ဒါမှလည်း ကျွန်တော်တို့ထံ ဒီသတင်းစကား မရောက်ခဲ့ပါလို့ ဘယ်သူကမျှ ပြောခွင့်မရမှာဖြစ်တယ်။ ဝေးဒကျမ်းမှာ နောက်ဆုံးပွင့်တော်မူမယ့် တမန်တော်ရဲ့ အမည်ကို နရာရှန်ဟုလည်းကောင်း၊ ရှေးယခင်ကျမ်းများမှာ ကလ်ကီအောင်ဝ်သားရ် ဟုလည်းကောင်း၊ သမ္မာကျမ်းမှာ ဖာရ်ကလိသ် ဆိုပြီးပါရှိသလို ဗုဒ္ဓရဲ့ကျမ်းမှာလည်း နောက်ဆုံးပွင့်မယ့် ဘုရားဟုလည်းကောင်း ရေးသားဖော်ပြထားပါတယ်။ အဲဒီကျမ်းဂန်တွေထဲမှာ တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)ရဲ့ မွေးဖွားရာနေရာ၊

မွေးနေ့၊ မွေးဖွားချိန်နဲ့ အခြားသော ကြောင်းခြင်းရာများကို လည်း ကြိုတင်ဖော်ပြထားလျက်ရှိပါတယ်။

## တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ရဲ့ မွန်မြတ်လှတဲ့ ဘဝသက်တမ်း အကြောင်း

နောက်ဆုံးတမန်တော် မုဟမ္မဒ်(ﷺ)ဟာ လွန်ခဲ့တဲ့ နှစ်ပေါင်း တစ်ထောင့်လေးရာအလျင်က ဆော်ဒီအာရေဗျ နိုင်ငံမှာရှိတဲ့ မက္ကာဟ်ရွှေမြို့တော်မှာ သန့်စင်ဖွားမြင်တော်မူခဲ့ ပါတယ်။ အဲဒီလို မမွေးဖွားမီ လအနည်းငယ်အလိုကပဲ သူ့ရဲ့ဖခင်ဟာ ကွယ်လွန်ခဲ့ပါတယ်။ မိခင်ကလည်း သူ မွေးဖွားပြီး နှစ်ရှည်လများ အတူမနေခဲ့ရပါ။ မိဘမဲ့ဖြစ်တဲ့ သူ့ကို ဦးစွာပထမ အဖိုးကပြုစုစောင့်ရှောက်ခဲ့ပြီး အဖိုး ကွယ်လွန်တဲ့အခါ ဘကြီးက ဆက်လက်စောင့်ရှောက်ခဲ့ တယ်။ ဒီလောကမှာ အထူးခြားဆုံးဖြစ်တဲ့ ဒီပုဂ္ဂိုလ်ဟာ မက္ကာမြို့တစ်ခွင်မှာရှိတဲ့ မျက်ဝန်းအားလုံးရဲ့ ကြယ်တာရာ သဖွယ် ဖြစ်လာခဲ့ပါတယ်။ သူကြီးပြင်းလာတာနဲ့အမျှ လူ တွေရဲ့ သူ့အပေါ်မှာထားရှိတဲ့ ချစ်ခင်မှုဟာလည်း တိုးပွား

လာပါတယ်။ အားလုံးက သူ့ကို အမှန်တရားရှင်နဲ့ သမာဓိရှင် လို့ ခေါ်ဆိုခဲ့ကြတယ်။ လူတွေဟာ မိမိတို့ရဲ့ အဖိုးထိုက်တန် တဲ့ ဥစ္စာပစ္စည်းတွေကို သူ့ထံမှာ လာရောက်အပ်နှံခဲ့ကြ တယ်။ မိမိတို့ရဲ့ အိမ်တွင်းရေး ပြဿနာတွေကိုလည်း သူ့ကိုပဲ ဖြေရှင်းပေးဖို့ အပ်နှင်းကြတယ်။ အဲဒီမက္ကာမြို့မှာ ကအ်ဘာ လို့ခေါ်ဆိုတဲ့ (အလ္လာဟ်အရှင်မြတ်ရဲ့ အိမ်တော်လို့ မှတ်ယူ ကြတဲ့) မွန်မြတ်လှတဲ့ ဝတ်ပြုရာနေရာတစ်ခုရှိပါတယ်။ အဲဒီ နေရာမှာ မြင့်မြတ်လှတဲ့ ကျောက်တုံးတစ်ခုလည်း ရှိပါ တယ်။ တစ်ချိန်မှာ ကအ်ဗာကျောင်းတော်ကို မွမ်းမံပြင်ဆင် တဲ့အခါ အဲဒီမြင့်မြတ်တဲ့ ကျောက်တုံးကို မူလအတိုင်း ပြန်လည်နေရာချထားရေးအတွက် ဒီမဟာအခွင့်ထူးကို မက္ကာမြို့မှာရှိတဲ့ မျိုးနွယ်အသီးသီးက ခေါင်းဆောင်တွေဟာ လက်ရယူလိုကြတယ်။ ဒီအရေးအတွက် ညှိနှိုင်းမရတဲ့အခါ ဓားလွတ်ဆွဲကိုင်တဲ့အထိ တင်းမာမှုတွေ ဖြစ်ပေါ်လာတယ်။ ဒါနဲ့ ပညာရှိတစ်ဦးက မနက်ဖြန် ဒီကျောင်းတော်နေရာကို အဦးဆုံးရောက်ရှိလာတဲ့သူဟာ ဒီအရေးကို ဖြေရှင်းရမယ်၊

အဲဒီအတိုင်းပဲ အားလုံးနာခံကြမယ်လို့ တင်ပြတော့ အားလုံးက လက်ခံသဘောတူကြတယ်။ သတ်မှတ်တဲ့နေ့မှာ အဲဒီကျောင်းတော်နေရာကို အဦးဆုံး ရောက်ရှိလာသူကတော့ တမန်တော်မုဟမ္မဒ် (ﷺ)ပဲ ဖြစ်တယ်။ အဲဒီအခါ အားလုံးက 'ကောင်းလေစွ။ ငါတို့ထံကို အမှန်တရားရှင်၊ သမာဓိရှင် ရောက်ရှိလာတာပဲဖြစ်တယ်' လို့ တညီတညွတ်ထဲဆိုကြတယ်။

တမန်တော်မုဟမ္မဒ် (ﷺ)က စောင်တစ်ထည်ကို ဖြန့်ခင်းပြီး ကျောက်တုံးကို စောင်ပေါ်တင်လိုက်တယ်။ ပြီးတော့ မျိုးနွယ်အသီးသီးက ခေါင်းဆောင်တွေကို စောင်ရဲ့ အနားစကိုကိုင်ပြီး တပ်ဆင်မယ့်နေရာကို သယ်ဆောင်စေတယ်။ သတ်မှတ်ထားတဲ့ နေရာရောက်တဲ့အခါ တမန်တော်မုဟမ္မဒ် (ﷺ)က မိမိရဲ့ လက်နဲ့မယူပြီး တပ်ဆင်ပေးခဲ့တယ်။ ဒီလိုနဲ့ တမန်တော်မုဟမ္မဒ် (ﷺ)ဟာ သွေးချောင်းစီးစေမယ့် အငြင်းပွားမှုကို ချုပ်ငြိမ်းစေ ခဲ့တယ်။

အဲဒီလိုပဲလူတွေက ကိစ္စရပ်အသီးသီးမှာ တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)ကို ရှေ့တန်းတင်လေ့ ရှိခဲ့ကြပါတယ်။ တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်) ခရီးသွားနေခိုက် အချိန်မျိုးမှာဆိုရင် အဲဒီလူတွေဟာ ဆောက်တည်ရာမရ ဖြစ်ခဲ့ကြတယ်။ ဒါကြောင့် တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်) ခရီးကပြန်ရောက်လာတယ်ဆိုရင်ပဲ လာရောက်တွေ့ဆုံကြပြီး ရှိုက်ကြီးတငင် ငိုကြွေးကြလေ့ရှိခဲ့ တယ်။

အဲဒီအချိန်က ကအ်ဗာကျောင်းတော် အတွင်းထဲမှာ ရုပ်ပွားဆင်းတုပေါင်း (၃၆၀)ခု ရှိခဲ့တယ်။ နတ်သား၊ နတ်သမီး စသည်ဖြင့် အစုံအလင်ပေါ့။ အာရေးဗီးယားတစ်ခွင်ဟာ ဇာတ်နိမ့်ဇာတ်မြင့် ခွဲခြားမှု၊ လူတန်းစားခွဲခြားမှု၊ အမျိုးသမီးတွေအပေါ် နိုင်ထက်စီးနင်းပြုမှု၊ အရက်သေစာသောက်စားမှု၊ လောင်းကစားတွေမှာ ပျော်ပါးမှု၊ အတိုးကိစ္စတွေမှာ နစ်မွန်းမှုနဲ့ ကာမန္တံမှာ လွန်ကျူးမှုတွေ အတောမသတ်နိုင်အောင် ပေါများလျက်ရှိခဲ့ပါတယ်။

တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်) သက်တော် လေးဆယ် ရောက်တဲ့အခါ အလ္လာဟ် အရှင်မြတ်က မိမိရဲ့ ကောင်းကင်တမန်တစ်ပါးကို စေလွှတ်တော်မူပြီး တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)ရဲ့ထံကို ကျမ်းတော်မြတ်ကုရ်အာန်ကို စတင်ချပေးသနားတော်မူခဲ့တယ်။ တစ်ဆက်ထဲမှာပဲ တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)ကို အလ္လာဟ် အရှင်မြတ်က မိမိရဲ့ရစူလ်တမန်တော်အဖြစ် ခန့်အပ်တော်မူကြောင်း သတင်းကောင်းပါးခဲ့ပြီး လူတွေကို တစ်ပါးတည်းတည်ရှိတော်မူတဲ့ အလ္လာဟ်အရှင်မြတ်ရဲ့ ထံတော်ပါးကို ဖိတ်ခေါ်ဖို့ တာဝန်ကိုလည်း အပ်နှင်းတော်မူခဲ့တယ်။

## အမှန်တရားရဲ့ ဖိတ်ခေါ်သံ

တစ်ရက်မှာတော့ တမန်တော်မြတ်(ဆွလလ္လာဟို့ အလိုင်ဟိ ဝစလာမ်)ဟာ တောင်ကုန်းတစ်ခုပေါ်တက်ပြီး လူတို့ထံအသံပေးတယ်။ လူတွေက ဒီအသံဟာ မှန်ကန်မှုအတိနဲ့ သစ္စာသမာဓိရှိတဲ့ ပုဂ္ဂိုလ်ရဲ့အသံဖြစ်တယ်ဆိုပြီး အဲဒီ

နေရာကိုစုရုံးရောက်ရှိလာကြတယ်။ အဲဒီအခါမှာ တမန်တော်မြတ်(ဆွလလ္လာဟု အလိုင်ဟိ ဝစလာမ်)က လူထုကို 'အကယ်လို့ ကျွန်တော်က ဒီတောင်ရဲ့ နောက်ကျောဘက်မှာ အလွန်ကြီးမားတဲ့ စစ်တပ်ကြီးတစ်တပ်ဟာ အသင်တို့ကို တိုက်ခိုက်ဖို့ ရောက်ရှိလာပြီလို့ဆိုရင် အသင်တို့ ကျွန်တော့်ရဲ့ စကားကို ယုံကြည်ပါသလား'လို့ ပြောတယ်။

အဲဒီအခါမှာ အားလုံးက 'အသင့်ရဲ့စကားကို ဘယ်သူက မယုံဘဲရှိပါ့မလဲ။ အသင်ဟာ ဘယ်တုန်းကမှ လိမ်လည်ပြောဆိုတာ မရှိခဲ့ပါဘူး။ အခုလဲ သင်ဟာ တောင်ရဲ့အခြားဘက်ကို ကြည့်ပြီးပြောနေတာလေ။'လို့ တညီတညွတ်ထဲ ဖြေကြတယ်။

အဲဒီအခိုက်မှာပဲ တမန်တော်မြတ်(ﷺ)က လူထုကို အစ္စလာမ်သာသနာဘက်သို့ ဖိတ်ခေါ်ခဲ့ပါတယ်။ ရုပ်ပွားဆင်းတု ကိုးကွယ်တာတွေကို တားမြစ်ခဲ့ပြီး အဲဒီလိုလုပ်ရပ်တွေကို မစွန့်လွှတ်ဘူးဆိုရင် တမလွန်မှာ ဂျဟန္နမ်ငရဲဘုံကို သက်ဆင်းရမယ်ဆိုတာလည်း သတိပေးခဲ့ပါတယ်။

## လူသားရဲ့ အားနည်းချက်တစ်ခု

လူသားမှာ အားနည်းချက်တစ်ခုရှိတယ်။ အဲဒါကတော့ လူသားဟာ မိမိတို့ရဲ့ အကြီးအကဲတွေရဲ့ လွဲမှားတဲ့ အယူအဆတွေကို မျက်လုံးမှိတ်ပြီး လက်ခံလေ့ရှိတာပါ။ လူသားရဲ့ဦးနှောက်နဲ့ အထောက်အထားတွေက ပြတ်သားစွာ ငြင်းဆန်ပေမယ့် လူသားဟာ မိမိတို့ရဲ့ ဘိုးဘေးဘီဘင်တို့ရဲ့ အယူအဆအပေါ်မှာပဲ ရပ်တည်လေ့ရှိကြပါတယ်။ အဲဒီအယူအဆတွေကို ဆန့်ကျင်ဖို့မဆိုထားနဲ့ ဆန့်ကျင်ဘက်ကိစ္စရပ်ကိုပင် နားဝမှာ ကြားလိုစိတ် မရှိကြပါဘူး။

ဒါကြောင့်ပဲ သက်တော်လေးဆယ်တိုင်တိုင် တမန်တော်မြတ်(ﷺ)ကို အရိုသေပေးပြီး မှန်ကန်တဲ့ပုဂ္ဂိုလ်ဖြစ်ကြောင်း အသိအမှတ်ပြုခဲ့ကြတဲ့ မက္ကာမြို့သားတွေဟာ တမန်တော်မြတ် (ﷺ)ရဲ့ စစ်မှန်တဲ့ သာသနာတော်ဘက်ကို ဖိတ်ခေါ်တဲ့အခါ မိမိတို့ရဲ့ ရန်သူအဖြစ် သတ်မှတ်ခဲ့ကြတယ်။ တမန်တော် မြတ်(ﷺ)က လူတွေကို အမှန်တရား ဘက်သို့ မည်မျှပင် ဖိတ်ခေါ်သည်ဖြစ်စေ လူတွေက သူ့အပေါ် ရန်ငြိုး

ထားမှုက ပိုပြီးကြီးမားလာခဲ့ပါတယ်။ အချို့က သူ့ကိုလက်ခံပြီး အစ္စလာမ်သာသနာဝင် ဖြစ်သွားသူတွေကို နှိပ်စက်ညှဉ်းပမ်းကြတယ်။ ရိုက်ကြနှက်ကြတယ်။ မီးခဲပေါ်မှာ လှဲအိပ်ခိုင်းတယ်။ လည်ပင်းမှာ ကြိုးကွင်းစွပ်ပြီး ဒရွတ်တိုက်ဆွဲကြတယ်။ ဒါပေမယ့် တမန်တော်မြတ်(ﷺ) ကတော့ အားလုံးအတွက် အလ္လာဟ်အရှင်မြတ်ရဲ့ထံမှာ ဒုအာဆုမွန်ကောင်းသာ တောင်းပေးခဲ့တယ်။ မည်သူ့ကိုမှလည်း လက်စားမချေခဲ့ပါဘူး။ မိမိရဲ့အရှင့်ထံမှ အဲဒီပုဂ္ဂိုလ်တွေ လမ်းမှန်ရဖို့ ညလုံးပေါက် ဆုတောင်းလေ့ရှိခဲ့ပါတယ်။ တစ်ချိန်မှာတော့ တမန်တော်မြတ် (ﷺ)ဟာ မက္ကာမြို့သားတွေအပေါ် မျှော်လင့်ချက်မဲ့ပြီး သွာအစ်ဖ်မြို့ကို ကြွမြန်းခဲ့ပါတယ်။ အဲဒီဒေသက လူတွေကလည်း ဒီလိုမြင့်မြတ်တဲ့ပုဂ္ဂိုလ်အပေါ် သေးသိမ်အောင်ပြုမူခဲ့ကြတယ်။ သူတို့က တမန်တော်မြတ် (ﷺ)ရဲ့နောက်ကို လိုက်သွားဖို့ ဆိုးသွမ်းတဲ့ကလေးတွေကို ထည့်ပေးလိုက်တယ်။ အဲဒီကလေးတွေက တမန်တော်မြတ် (ﷺ)ကို မကောင်းပြောဆိုပြီး ခဲတွေနဲ့ ပစ်ပေါက်ကြလို့

တမန်တော်မြတ်(ﷺ)ရဲ့ ခန္ဓာ တော်ကနေ ခြေထောက်အထိ သွေးတွေယိုစီးလာတယ်။ နာကျင်မှုဒဏ်ကြောင့် တမန်တော် မြတ်(ﷺ)ဟာ တစ်နေရာမှာ ရပ်နားပြီးထိုင်တယ်ဆိုရင် လည်း ကလေးတွေက တမန်တော်မြတ်(ﷺ)ကို မတ်တပ် ရပ်စေပြီး ခဲတွေနဲ့ ထပ်မံပစ်ပေါက်ကြတယ်။ အဲဒီလို သွေးစက်လက်နဲ့ တမန်တော်မြတ်(ﷺ)ဟာ မြို့ပြင်ထွက် လာပြီး နေရာတစ်ခုမှာ ထိုင်ပြီးနားနေခဲ့တယ်။ ဒီလိုအခြေ အနေမှာပင် တမန်တော်မြတ် (ﷺ)ဟာ အဲဒီသူတွေကို ကျိန်ဆဲခြင်းမပြုခဲ့ဘူး။ ဒါတွင်မက အရှင်မြတ်ထံတော်ပါးမှာ သူတို့အတွက် 'အို အရှင်မြတ်၊ ဒီလူတွေကို အသိတရား ချီးမြှင့်တော်မူပါ။ သူတို့ဟာ ကျွန်တော်မျိုးကို တမန်တော် တစ်ပါးအဖြစ် မသိကြလို့ ယခုလိုပြုမူကြ တာပါ'လို့ ဆုမွန် ကောင်း တောင်းပေးခဲ့ပါတယ်။ တမန်တော်မြတ် (ﷺ)ဟာ သန့်ရှင်းစင်ကြယ်တဲ့ မုဟ္ဂပတ်တော်တွေနဲ့ ဝဟီဗျာဒိတ် တော်တွေကို ပို့ချလို့ မိမိချစ်လှတဲ့ မက္ကာမြို့ကို စွန့်ခွာခဲ့ရ တယ်။ ဒီလိုနဲ့ မဒီနာမြို့မှာ နေထိုင်ခဲ့စဉ်မှာလည်း မက္ကာမြို့

သားတွေက စစ်တပ်စုဆောင်းပြီး အကြိမ်ကြိမ်အဖန်ဖန် တမန်တော်မြတ် (ﷺ) အပေါ် တိုက်စစ်ဆင်နွှဲခဲ့ကြပါတယ်။

## အမှန်တရားရဲ့ အောင်မြင်မှု

အမှန်တရားဟာ အမြဲထာဝရ အောင်မြင်မှုရရှိမှာ အမှန်ပါ။ ယခုလည်း တမန်တော်မြတ်(ﷺ)ဟာ အောင်မြင်မှု ရရှိခဲ့ပါတယ်။ (၂၃) နှစ်တာ ကြမ်းတမ်းလှတဲ့ ဒုက္ခမျိုးစုံကို ခံစားခဲ့ရပြီးနောက်မှာ တမန်တော်မြတ်(ﷺ)ဟာ အားလုံး အပေါ်မှာ အောင်မြင်မှုရရှိခဲ့ပါတယ်။ တမန်တော်မြတ် (ﷺ) ရဲ့ မှန်ကန်တဲ့လမ်းစဉ်သို့ ဖြူစင်စွာဖိတ်ခေါ်မှုဟာ အာရေး ဗီးယားဒေသတစ်ခွင်ကို အစ္စလာမ်သာသနာရဲ့ အေးရိပ် ဆာယာအောက်ကို ရောက်ရှိစေခဲ့ပြီး လောကတစ်ခွင်မှာ အပြောင်းအလဲတစ်ရပ် ဖြစ်စေခဲ့ပါတယ်။ ရုပ်ပွားဆင်းတု ကိုးကွယ်မှု နိဂုံးချုပ်သွားခဲ့သလို ဇာတ်နိမ့်၊ ဇာတ်မြင့် အယူလည်း ပပျောက်သွားခဲ့တယ်။ အများစုဟာ တစ်ပါး

တည်းသောအရှင်ကို သက်ဝင်ယုံကြည်လာကြပြီး အဲဒီအရှင်အား ကိုးကွယ်ဆည်းကပ်သူတွေ ဖြစ်လာခဲ့ကြတယ်။

**နောက်ဆုံး အမှာစကား**

တမန်တော်မြတ်(ﷺ)ဟာ ဒီလောကကို မစွန့်ခွာမီ နောက်လိုက်ပေါင်း တစ်သိန်းနှစ်သောင်းငါးထောင်ခန့်နဲ့ ဟဂ္ဂျ်ပြုခဲ့ပြီး အဲဒီသူတွေကို နောက်ဆုံးမှာတမ်း ခြွေခဲ့ပါတယ်။ အဲဒီမှာ တမ်းထဲက ကောက်နှုတ်ချက်အချို့မှာ …

'အိုလူသားတို့၊ အသင်တို့ သေဆုံးကွယ်လွန်ပြီးနောက် အသင်တို့ရဲ့လုပ်ရပ်တွေနဲ့ ပတ်သတ်ပြီး မေးမြန်းခြင်းခံရသောအခါ ငါကိုယ်တော်နဲ့ ပတ်သတ်၍လည်း မေးမြန်းခံရမှာ ဖြစ်ပါတယ်။ ငါကိုယ်တော်သည် အလ္လာဟ်အရှင့်ရဲ့ သာသနာတော်နဲ့ အမှန်တရားကို လူတို့ထံပို့ချခဲ့ပါသလော။'

ထိုအခါ ရှေ့မှာရှိနေကြသူအားလုံးက 'အမှန်ပင် ပို့ချတော်မူခဲ့ပါတယ်' လို့ ဖြေကြ တယ်။

အဲဒီအခါ တမန်တော်မြတ်(ﷺ)က မိုးကောင်းကင်သို့ လက်ညှိုး ညွှန်တော်မူပြီး 'အို-အလ္လာဟ်အရှင်၊ သက်သေ အဖြစ်ရှိတော်မူပါ။ သက်သေအဖြစ် ရှိတော်မူပါ။ သက်သေ အဖြစ် ရှိတော်မူပါ'လို့ သုံးကြိမ်တိုင် ပြောဆိုတော်မူတယ်။ အဲဒီနောက် တမန်တော်မြတ်(ﷺ)က 'ဒီစစ်မှန်တဲ့ သာသနာ ကို လက်ခံရရှိသူတွေက မရရှိသေးသူတွေထံ ပို့ချကြကုန်' ဆိုပြီး မိန့်မှာတော်မူတယ်။

တမန်တော်မြတ်(ﷺ)က 'ငါကိုယ်တော်ဟာ နောက် ဆုံး ရစူလ်တမန်တော်ဖြစ်တယ်။ ငါကိုယ်တော်ရဲ့ နောက်မှာ မည်သည့်ရစူလ်၊ နဗီမျှ ပွင့်ပေါ်လာတော့မည်မဟုတ်ပါ။ ငါ ကိုယ်တော်သည်သာ နောက်ဆုံးနဗီ (နရာရှန်၊ ကလ်ကီ အောင်ဝ်သားရ်) ဖြစ်တယ်။ ငါကိုယ်တော် ပွင့်ပေါ်လာမယ် ဆိုတာကို အသင်တို့ စောင့်မျှော်နေကြသလို ငါကိုယ်တော်နဲ့ ပတ်သက်ပြီးလည်း အသင်တို့အားလုံး သိရှိထားပြီးဖြစ်ပါ တယ်'လို့လည်း သတင်းစကားပါးခဲ့ပါတယ်။

ကျမ်းတော်မြတ်ကုရ်အာန်မှာ ဒီလို မိန့်တော်မူထား ပါတယ် ...

'အမှန်စင်စစ် (တောင်ရာတ်နှင့် အင်န်ဂျီလ်)ကျမ်း များကို ငါအရှင်မြတ်ပေးသနားတော်မူသော (ယဟူဒီနှင့် ခရစ်ယာန်တို့၏ ပညာရှိသုခမိန်)တို့သည် မိမိတို့၏ သားမြေး တို့ကို သိဘိသကဲ့သို့ ထို[နဗီတမန်တော်မုဟမ္မဒ် (ﷺ)]ကို လည်း သိကြလေသည်။ သို့ရာတွင် ကေန်မုချ ယင်းသူတို့ အနက်မှ လူတစ်စုသည် အမှန်ကို (အမှန်ဟူ၍) သိရှိပါလျက် နှင့်ပင် ထိမ်ချန်ထားရှိကြလေသတည်း။'

**(ကျမ်းတော်မြတ်ကုရ်အာန် ၂:၁၄၆)**

## လူသားတိုင်းရဲ့ တာဝန်

ကမ္ဘာပျက်သုဥ်းချိန်တိုင် ရှိနေမယ့် လူသားတိုင်း အပေါ်မှာ တာဝန်တစ်ရပ် တင်ရှိနေပါတယ်။ အဲဒီတာဝန်က ဘာသာရေးသက်သက်မဟုတ်ဘဲ လူမှုရေးတာဝန်လည်း ဖြစ် ပါတယ်။ အဲဒါကတော့ လူသားဟာ တစ်ပါးတည်းသာ တည်ရှိတော်မူတဲ့ အလ္လာဟ်အရှင်မြတ်ကိုသာ ကိုးကွယ်ရ

မယ်။ အဲဒီအရှင်မြတ်နဲ့ မည်သူ့ကိုမှ တုဖက်နှိုင်းယှဉ်ခြင်း မပြုရဘူး။ အဲဒီအရှင်မြတ်က စေလွှတ်တော်မူခဲ့တဲ့ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ဟာ မှန်ကန်တဲ့ တမန်တော်တစ်ပါး ဖြစ်ပြီး သူယူဆောင်လာတဲ့ သာသနာနဲ့ ဘဝလမ်းစဉ် အတိုင်းသာ နာခံလျှောက်လှမ်းကြရမှာလည်း ဖြစ်ပါတယ်။ အဲဒီယုံကြည်ချက်ကို အစ္စလာမ် သာသနာတော်က အီမာန်လို့ခေါ်တယ်။ အီမာန်မပါဘဲ သေဆုံးသွားမယ်ဆိုရင် တမလွန်မှာ ငရဲဘုံအတွင်း သက်ဆင်းရမှာပဲဖြစ်ပါတယ်။

**စောဒက အချို့**

ဒီနေရာမှာ မိတ်ဆွေတွေအနေနဲ့ မေးခွန်းအချို့ မေးစရာရှိလာတတ်ပါတယ်။ ဥပမာဆိုရရင် လူတစ်ယောက် ကွယ်လွန်သေဆုံးပြီးနောက်မှာ ဂျန္နသ်သုခဘုံနဲ့ ဂျဟန္နမ်ငရဲဘုံကို သွားရမယ်ဆိုတာ မမြင်ရဘဲ ဘာကြောင့်လက်ခံရမှာလဲ။

ဒီမေးခွန်းကို ဖြေရရင် ရှေးယခင်ကျမ်းဂန်တွေထဲမှာ ဂျန္နသ်သုခဘုံနဲ့ ဂျဟန္နမ်ငရဲဘုံတို့ရဲ့ အခြေအနေတွေကို

ဖော်ပြထားတာရှိပါတယ်။ ဒါကြောင့် ဂျန္နသ်သုခဘုံနဲ့ ဂျဟန္နမ်ငရဲဘုံ ဆိုတာတွေဟာ ဘာသာတရားအားလုံးက လက်ခံထားပြီးသားဖြစ်တယ်လို့ ဆိုပါရစေ။ ဒီအချက်ကို သဘောပေါက်စေဖို့ ဥပမာတစ်ခုနဲ့ ဖော်ပြပါမယ်။ မိခင် တစ်ယောက်ရဲ့ ဝမ်းဗိုက်အတွင်းမှာ ရှိနေတဲ့ ရင်သွေးငယ် လေးကို အပြင်ရောက်လာရင် နို့သောက်ရမယ်၊ ငိုမယ်၊ အပြင်မှာရှိတာတွေ မြင်တွေ့ရမယ်လို့ပြောရင် အဲဒီရင်သွေး လေးက ယုံကြည်မှာမဟုတ်ဘူး။ ဒါပေမယ့် မိခင်ရဲ့ဝမ်းဗိုက် က ထွက်လာတာနဲ့ သူဟာ အဲဒါတွေကို မြင်တွေ့ရမှာပဲဖြစ် တယ်။ အဲဒီလိုပဲ ကျွန်တော်တို့ အခုနေထိုင်နေတဲ့ လောက ဟာလည်း မိခင်ရဲ့ဝမ်းဗိုက်အထဲက အခြေအနေလို ဖြစ်နေပါ တယ်။ ဒီလောကကနေ သေဆုံးပြီးလို့ ထွက်သွားတဲ့အခါ တမလွန်မှာ မျက်စိဖွင့်လိုက်တာနဲ့ အရာအားလုံးကို မျက်ဝါး ထင်ထင် မြင်တွေ့ကြရမှာပါ။ တမလွန်မှာရှိတဲ့ သုခဘုံ၊ ငရဲဘုံနဲ့ အခြားသော အမှန်တရားတွေရဲ့ သတင်းစကားကို မှန်ကန်တဲ့ နဗီတမန်တော်က ပြောကြားခဲ့ပြီးဖြစ်ပါတယ်။

အဲဒီလိုပဲ မြင့်မြတ်မှန်ကန်လှတဲ့ ကျမ်းတော်မြတ်ကုရ်အာန်မှာလည်း အလားတူဖော်ပြထားပါတယ်။ ကျမ်းတော်မြတ်ကုရ်အာန်ရဲ့ မှန်ကန်မှုကို မိတ်ဆွေတွေသာမက သူစိမ်းတွေကပါ လက်ခံကြတယ် မဟုတ်လား။

## ဒုတိယ စောဒက

ဒုတိယအနေနဲ့ မိတ်ဆွေတို့ရဲ့ စိတ်ထဲမှာတမန်တော်အားလုံး၊ ဘာသာတရားအားလုံးနဲ့ ကျမ်းဂန်အားလုံးဟာမှန်ကန်နေပါလျက် ဘာလို့များ အစ္စလာမ်သာသနာကိုလက်ခံယုံကြည်ဖို့ အရေးပါရသလဲဆိုပြီး ဘဝင်မကျဖြစ်နေမှာပါ။ ဒီနေ့ခေတ်မှာတော့ အဲဒီသံသယ မေးခွန်းအတွက်အဖြေဟာ အလွယ်တကူပဲရှိနေပါတယ်။ ကျွန်တော်တို့မှီတင်းနေထိုင်နေတဲ့ အိန္ဒိယနိုင်ငံမှာ လွှတ်တော်တစ်ခုရှိပါတယ်။ အဲဒီလွှတ်တော်မှာ လိုက်နာရမယ့် အခြေခံဥပဒေတစ်ရပ်လည်းရှိပါတယ်။ အိန္ဒိယနိုင်ငံမှာ အစဉ်အဆက်သမ္မတဖြစ်ခဲ့သူတွေဟာ အစစ်အမှန်တွေချည်းပဲ ဖြစ်တယ်။ ဥပမာပြောရရင် ပန်ဒစ် ဂျဝါဟိရ်လားလ် နေရူး ရှစသီဂျီး၊

အင်ဒရာဂန်ဒီ၊ ကျရန်ဆင့်ခ်၊ ရာဂျူးဂန်ဒီ၊ ဒီပီဆင့်ခ် စသည် ဖြင့် အဲဒီသမ္မတတွေဟာ နိုင်ငံရဲ့ လိုအပ်ချက်၊ အချိန်အခါနဲ့ အညီ ဥပဒေနဲ့ပြုပြင်ပြောင်းလဲမှုတွေ ပြုလုပ်ခဲ့ကြပါတယ်။ အဲဒါတွေအားလုံးဟာ အိန္ဒိယနိုင်ငံရဲ့ ဥပဒေတွေချည်းပဲဖြစ် တယ်။ ဒါပေမယ့် လက်ရှိသမ္မတနဲ့ ၎င်းရဲ့အစိုးရအဖွဲ့အစည်း က ချမှတ်တဲ့ဥပဒေနဲ့ ပြောင်းလဲမှုတွေကြောင့် အရင်ကရှိ ခဲ့တဲ့ ဥပဒေဟောင်း အချို့ဟာ ပယ်ပျက်သွားပြီးဖြစ်ပါတယ်။ ဒါကြောင့် အိန္ဒိယ နိုင်ငံသားအားလုံးဟာ လက်ရှိတည်ဆဲ ဥပဒေကို လိုက်နာကျင့်သုံးရမှာပဲဖြစ်ပါတယ်။ ဒါကိုမှ နိုင်ငံ သားတစ်ဦးက အင်ဒီရာဂန်ဒီက သမ္မတအစစ်အမှန်ဖြစ် တယ်၊ ဒါကြောင့် သူပြဋ္ဌာန်းခဲ့တဲ့ဥပဒေတွေကိုပဲ ကျွန်တော် ကတော့လက်ခံတယ်၊ လက်ရှိသမ္မတသစ်ရဲ့ ပြောင်းလဲ ပြဋ္ဌာန်းထားတဲ့ ဥပဒေတွေကို လက်မခံဘူး၊ ဒါကြောင့် လက်ရှိသမ္မတသစ်က သတ်မှတ်တဲ့ အခွန်အခကိုလည်း ပေးဆောင်မှာမဟုတ်ဘူးဆိုရင် အဲဒီသူကို အားလုံးက တိုင်းပြည်ရဲ့သူပုန်၊ အပြစ်ဒဏ် ထိုက်သူလို့ သတ်မှတ်မှာပဲ

ဖြစ်တယ်။ အလားတူပဲ ဘာသာအားလုံးနဲ့ ဘာသာရေး လမ်းပြ ပုဂ္ဂိုလ်အားလုံးက မိမိတို့ရဲ့ ခေတ်အခါအသီးသီးမှာ ပေါ်ထွန်းခဲ့ပြီး မှန်ကန်တဲ့ သွန်သင်ပြသမှုတွေ ပြုခဲ့ကြပြီးဖြစ်လို့ ပွင့်ပေါ်ခဲ့တဲ့ တမန်တော်အားလုံးနဲ့ ကျမ်းဂန်အားလုံးကို ယုံကြည်တဲ့သူတွေ အနေနဲ့လည်း နောက်ဆုံးပွင့်ပေါ်တော်မူခဲ့တဲ့ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)အပေါ် သက်ဝင်ယုံကြည်ဖို့၊ အဲဒီ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ရဲ့ ရှရီအဟ်ဥပဒေပေါ်မှာ နာခံကျင့်သုံးဖို့ တာဝန်ရှိပါတယ်။

## စစ်မှန်သော သာသနာက တစ်ခုတည်းသာ

ဒါကြောင့် ဘာသာတရားအားလုံးဟာ လူသားတွေကို ဖန်ဆင်းရှင်ဆီသို့သာ ခေါ်ဆောင်သွားပြီး လမ်းစဉ်အသီးသီးရှိကြပေမယ့် ပန်းတိုင်ကတော့ တစ်ခုထဲဖြစ်တယ်လို့ ပြောလို့မရပါဘူး။ အမှန်တရားဆိုတာ တစ်ခုထဲပဲရှိတာပါ။ မုသားကတော့ အမြောက်အများ ရှိနေတာပါ။ အဲဒီလိုပဲ အလင်းရောင်ဆိုတာ တစ်ခုတည်းသာရှိပေမယ့် အမိုက်မှောင်ကတော့ များစွာရှိပါတယ်။ ဒါကြောင့် သာသနာစစ်

သာသနာမှန်ဆိုတာ တစ်ခုထဲပဲရှိပါတယ်။ အဲဒါကလည်း ကမ္ဘာဦးအစကတည်းက တစ်ခုထဲပဲရှိခဲ့သလို နောက်ဆုံး ကမ္ဘာပျက်သုဉ်းချိန်အထိလည်း တစ်ခုထဲပဲ ရှိနေမှာဖြစ်ပါတယ်။ ဒါကြောင့် အဲဒီတစ်ခုထဲသော သာသနာကို လက်ခံယုံကြည်ခြင်းနဲ့ အဲဒီသာသနာက လမ်းညွှန်တဲ့ သင်ကြားပြသမှုအတိုင်း နာခံလျှောက်လှမ်းခြင်းကိုပဲ အစ္စလာမ်လို့ ခေါ်တွင်ပါတယ်။ အစ္စလာမ်သာသနာက ပြောင်းလဲခြင်းလုံးဝမရှိတဲ့ သာသနာပါ။ အဲဒီသာသနာမှာ ဟိုးအတိတ်က ပြဋ္ဌာန်းထားတဲ့ ဥပဒေအချို့ဟာ အခြေအနေနဲ့ အချိန်အခါအရ ပြောင်းလဲမှုရှိခဲ့တယ်ဆိုပြီး စောဒကဝင်မယ်ဆိုပါက အဲဒီလို ပြောင်းလဲခဲ့ရခြင်းဟာလည်း ဖန်ဆင်းရှင်ရဲ့ ဗျာဒိတ်တော်အတိုင်းသာ နည်းလမ်းမှန် ပြောင်းလဲခဲ့တာပဲ ဖြစ်ပါတယ်လို့ ဖြေရှင်းနိုင်ပါတယ်။ ရှေးယခင်ကရှိခဲ့တဲ့ လူသားမျိုးဆက်ဆိုတာ တစ်ခုတည်းဖြစ်ပြီး ၎င်းတို့ကိုးကွယ်ကြတဲ့ အရှင်သည်လည်း တစ်ပါးတည်းသာဖြစ်ခဲ့သလို လမ်းစဉ်သည်လည်း တစ်ခုတည်းသာဖြစ်ပါတယ်။ ဖန်ဆင်းရှင်ဖြစ်

တော်မူတဲ့ အလ္လာဟ်အရှင်မြတ်ရဲ့ ထံတော်ပါးမှာ သာသနာဟာ တစ်ခုထဲသာရှိပြီး အဲဒီသာသနာကလည်း အစ္စလာမ် သာသနာပဲ ဖြစ်တယ်ဆိုတာ ကျမ်းတော်မြတ် ကုရ်အာန်မှာ မိန့်တော်မူထားပါတယ်။

## အခြားသော စောဒကတစ်ခု

အတွေးထဲမှာ ပေါ်ပေါက်လေ့ရှိတဲ့ စောဒကတစ်ခုလည်း ရှိပါတယ်။ အဲဒါကတော့ တမန်တော်မြတ် မုဟမ္မဒ် (ﷺ)ဟာ အလ္လာဟ်အရှင်မြတ်ရဲ့ ထံတော်ပါးကနေ စေလွှတ်တော်မူခြင်းခံရတဲ့ တမန်တော်တစ်ပါး အမှန်ဖြစ်တယ်၊ ဒီလောကရဲ့ နောက်ဆုံးတမန်တော်လည်း ဖြစ်တယ်ဆိုတာ ဘာအထောက်အထားနဲ့ ပြောဆိုပါသလဲဆိုတဲ့ စောဒကပါ။

အဖြေကတော့ ရှင်းပါတယ်။ တစ်အချက်က အခုလက်ဝယ်ရှိနေတဲ့ ကျမ်းတော်မြတ် ကုရ်အာန်ဟာ အလ္လာဟ် အရှင်မြတ်ရဲ့ မုကျ္ဇပတ်တော်ဖြစ်တယ်၊ အဲဒီကျမ်းတော်က မှန်ကန်ကြောင်းပေးတဲ့ အထောက်အထားတွေ အားလုံးကို လူတွေလက်ခံမြဲရှိပြီး ဒီနေ့အထိ အဲဒီအထောက်အထားတွေ

ထဲက တစ်စုံတစ်ခုကိုမှ မမှန်ပါဘူးဆိုပြီး ခြေဖျက်နိုင်တာ မရှိပါဘူး။ နောင်လည်း ဘယ်သောအခါမှ ရှိလာမှာမဟုတ်ဘူး။ ဒါ့အပြင် အဲဒီကျမ်းမြတ်ကပဲ တမန်တော်မြတ် မုဟမ္မဒ် (ﷺ)ဟာ စစ်မှန်တဲ့ နောက်ဆုံးနဗီဖြစ်ကြောင်း အတိအလင်း ဖော်ပြထားပါတယ်။ ဒုတိယအချက်က တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ရဲ့ ဘဝသက်တမ်းတစ်လျှောက် အသေးစိတ် အထ္ထုပတ္တိတွေ ကမ္ဘာတစ်ခွင်မှာ ဘာသာစကားအမျိုးမျိုး ရှုထောင့်အသီးသီးကနေ ထုတ်ဖော်ရေးသားထားတာ အလျှံ ပယ်ရှိနေပါတယ်။ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ရဲ့ ဘဝ သက်တမ်းဟာ ရှင်းလင်းပြတ်သားတဲ့ သမိုင်းမှတ်တမ်းပဲ ဖြစ်ပါတယ်။ ဒီလောကမှာရှိတဲ့ ဘယ်လိုလူမျိုးရဲ့ရာဇဝင်မှ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ရဲ့ ရာဇဝင်လို ယုံကြည်စိတ်ချရမှု မရှိသလို ရှင်းလင်းပြတ်သားမှုလည်း မရှိပါဘူး။ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ကို မလိုမုန်းထားသူတွေ၊ အစ္စလာမ် သာသနာရဲ့ရန်သူတွေဖြစ်တဲ့ သမိုင်းသုတေသီအချို့ကပင် တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ဟာ ဘဝတစ်လျှောက်မှာ

ဘယ်သောအခါမှ တစ်ဦးတစ်ယောက်နဲ့ ပတ်သတ်ပြီး လိမ်ညာမုသား ပြောဆိုခဲ့တယ်လို့ မဆိုခဲ့ကြပါဘူး။ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)နဲ့ တစ်မြို့ထဲမှာ အတူနေထိုင် သူတွေက သူ့ရဲ့မှန်ကန်မှု၊ သမာဓိရှိမှုတွေကို ကျိန်ဆိုပြီး ပြောခဲ့ကြတယ်။ မိမိရဲ့ ကိုယ်ရေးကိုယ်တာ ဘဝတာမှာ လိမ်ညာမုသားပြောခြင်းမရှိခဲ့တဲ့ စံပြပုဂ္ဂိုလ်မွန်ဟာ သာသနာ့အမည်တပ်၊ ဖန်ဆင်းရှင်ရဲ့ တံဆိပ်ကပ်ပြီး ဘယ်လိုမှ လိမ်ညာမုသား မဆိုဘူးဆိုတာ ရှင်းပြဖို့ပင်မလိုပါ။ ဒါ့အပြင် တမန်တော်မြတ် မုဟမ္မဒ်(ﷺ) ကိုယ်တိုင်က ‘ငါသည် နောက်ဆုံးပွင့်တော်မူတဲ့ နဗီတမန်တော်ဖြစ်ပြီး ငါ့နောက်မှာ ဘယ်နဗီတမန်တော်မှ ပွင့်လာမှာမဟုတ်ဘူး’လို့ အမိန့်ရှိခဲ့သလို ဘယ်လိုပုဂ္ဂိုလ်ဟာဖြင့် ဘယ်လိုလက္ခဏာရပ်တွေနဲ့ ပွင့်လာမယ်ဆိုပြီးတော့လည်း စိုးစဉ်းမျှ မိန့်တော်မူခဲ့ခြင်းလည်း မရှိပါ။ ဒီလောကမှာရှိတဲ့ ဘာသာရေး ကျမ်းဂန်တွေအားလုံးမှာ နောက်ဆုံးပွင့်လာမယ့် သူတော်ကောင်း၊ ဘုရားလောင်းဆိုပြီး အဲဒီသူနဲ့ပတ်သက်တဲ့ ရှေ့ပြေးလက္ခဏာ အမှတ်သညာ

တွေ တင်ပြထားတာရှိပါတယ်။ အဲဒီအမှတ်သညာတွေ အားလုံးကလည်း အစ္စလာမ်သာသနာတော်မှာ ပွင့်ပေါ်တော်မူခဲ့တဲ့ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)နဲ့ ရာနှုန်းပြည့် ကိုက်ညီမှုရှိနေတာပဲ ဖြစ်ပါတယ်။

## ဟင်ဒူဘုန်းတော်ကြီး ဝီးဒ်ပရ်ကားရှ်ရဲ့ ဆုံးဖြတ်ချက်

ဟင်ဒူဘုန်းတော်ကြီး ဝီးဒ်ပရ်ကားရှ်အပါဒယာ က 'အစ္စလာမ်သာသနာကို လက်မခံသူ၊ တမန်တော်မြတ်(ﷺ) နဲ့ တမန်တော်မြတ်ရဲ့ သာသနာကို လက်မခံသူဟာ ဟင်ဒူ ဘာသာဝင်လည်း မဖြစ်နိုင်ပါ။ ဘာလို့လဲဆိုတော့ ဟင်ဒူတွေရဲ့ ဘာသာရေးကျမ်းဂန်တွေထဲမှာ ကလ်ကီအောင်ဝ်သာရ် နဲ့ နရာရှန်တို့ မြေပထဝီပေါ် လာရောက်တဲ့အခါ ၎င်းတို့နဲ့ ၎င်းတို့ရဲ့ သာသနာကို လက်ခံကြဖို့ မိန့်ထားပါတယ်။ မည်သည့်ဟင်ဒူမဆို မိမိတို့ရဲ့ ကျမ်းဂန်တွေကို ယုံကြည်တယ်ဆိုရင် တမန်တော်မြတ် (ﷺ)ကို ယုံကြည်ရမှာပဲဖြစ်တယ်။ အဲဒီလို မယုံကြည်ဘဲ သေဆုံးပါက တမလွန်မှာ ငရဲမီးတွင်းထဲ သက်ဆင်းရမှာပဲဖြစ်တယ်။ အဲဒီလို ငရဲကျခံ

နေသူတွေဟာ ဖန်ဆင်းရှင်ကို ဖူးတွေ့ခွင့်မရှိသလို ဖန်ဆင်းရှင်ရဲ့ အမျက်ဒေါသ စူးရှမှုကိုလည်း ခံယူကြရမှာဖြစ်တယ်' လို့ ရေးသားဖော်ပြခဲ့ပါတယ်။

## အီမာန် ယုံကြည်မှု လိုအပ်ခြင်း

သေပြီးနောက် တမလွန်သက်တမ်းကို ခေတ္တ ဖယ်ထားမယ်ဆိုလည်း ဒီလောကမှာ အီမာန်ယုံကြည်မှုနဲ့ အစ္စလာမ်သာသနာက ကျွန်တော်တို့ရဲ့ လိုအပ်ချက်ဖြစ်ပါတယ်။ လူသားဟာ တစ်ပါးတည်းတည်ရှိတော်မူတဲ့ အလ္လာဟ်အရှင်မြတ်ကိုသာ ကိုးကွယ်ဆည်းကပ်ဖို့ တာဝန်ရှိပါတယ်။ အဲဒီအရှင်မြတ်ကို စွန့်လွှတ်ပြီး အခြားသူတွေရဲ့ ရှေ့မှာ ဦးချတဲ့သူဟာ တိရစ္ဆာန်တွေထက်ပင် ပိုမိုနိမ့်ကျသူဖြစ်ပါတယ်။ ခွေးတစ်ကောင်ဟာ မိမိအရှင်သခင်ရဲ့ အပေါ်မှာပဲ တွယ်ကပ်နေလေ့ရှိသလို အဲဒီသခင်ထံမှာသာ မျှော်လင့်ချက်ထားရှိစမြဲပါ။ ဒီအတိုင်းဆိုရင် မိမိရဲ့စစ်မှန်တဲ့ အရှင်သခင်ကို မေ့လျော့ပြီး အရပ်တကာမှာ လှည့်ပတ်နေသူဟာ ဘယ်လိုလူစားမျိုး ဖြစ်မလဲဆိုတာ တွေးကြည့်ပါ။ အီမာန်

(ဖန်ဆင်းရှင်ကို ယုံကြည်ခြင်း)က တမလွန်အတွက် ပိုပြီးလို အပ်ပါတယ်။ လူဟာ သေဆုံးပြီးရင် ဒီလောကကို ပြန်လာရမှာ မဟုတ်ဘူး။ အဲဒီအခါမှာ သေခြင်းကို တမ်းတရင်လည်း အလကားပဲဖြစ်တယ်။ အဲဒီလိုပဲ နောင်တဆိုတာလည်း အသုံးမဝင်တော့ပါဘူး။ တကယ်လို့ လူသားဟာ အီမာန်မပါဘဲ ဒီလောက ကနေ ထွက်ခွာသွားမယ်ဆိုရင် ဂျဟန္နမ်ငရဲတွင်းမှာ ထာဝရ သက်ဆင်း လောင်ကျွမ်းခံရမှာ အမှန်ပါ။ ဒီလောကမှာရှိတဲ့ မီးခဲလေးတစ်ခဲပင် ကျွန်တော်တို့ရဲ့ ခန္ဓာကိုယ်နဲ့ ထိမိတယ်ဆိုရင် ကျွန်တော်တို့ မခံစားနိုင်ပါ။ ဒါဆိုရင် ဒီလောကမှာရှိတဲ့ မီးထက်အဆပေါင်း(၇၀)ပြင်းထန်တဲ့ ငရဲမီးကို ဘယ်လိုများ ခံစားနိုင်ပါ့မလဲ။ ဒါ့အပြင် ထာဝရ လောင်ကျွမ်းခံရမှာဆိုတော့ စဉ်းစားယုံနဲ့တင် သတိလစ်သွားနိုင်ပါတယ်။ အဲဒီမှာ ထာဝရလောင်ကျွမ်းခံရမှာဆိုတာ အရေပြားတစ်ခု လောင်ကျွမ်းပြီးသွားရင် နောက်တစ်ကြိမ်ထပ်မံပြီး အရေပြားအသစ် လဲလှယ်ပေးခြင်းခံရမှာဖြစ်သလို အဆက်မပြတ် ဒီဒဏ်ကို ခံနေရမှာဖြစ်ပါတယ်။

## စာရှုသူအပေါင်းတို့

ချစ်စွာသော စာရှုသူအပေါင်းတို့၊ သေခြင်းတရားဆိုတာ ကိုယ့်ဆီဘယ်အချိန် ဆိုက်ရောက်လာမလဲ မသိနိုင်ပါဘူး။ ကျွန်တော်တို့ ရှူသွင်းလိုက်တဲ့လေဟာ ခန္ဓာကိုယ်ထဲကနေ ပြန်ထွက်လာမလား ဆိုတာတောင် မယုံကြည်ရပါဘူး။ အဲဒီလိုပဲ ရှူထုတ်လိုက်တဲ့လေဟာ ပြန်ပြီးရှူသွင်းနိုင်မလားဆိုတာလည်း စိတ်ချရတာမဟုတ်ပါ။ ဒီတော့ မသေမီမှာ ကျွန်တော်တို့အတွက် အခွင့်အရေးရှိနေပါတယ်။ မိမိတို့အတွက် ဘယ်တာဝန်က အကြီးမားဆုံးလဲဆိုတာ သတိပြုပါ။ အီမာန်ယုံကြည်မှုကင်းမဲ့တဲ့ ဒီသက်တမ်းက အကျိုးရှိတဲ့သက်တမ်းမဟုတ်ပါဘူး။ ဒီလောကအတွက် အကျိုးမဲ့သလိုသေပြီးနောက် ကြုံတွေ့ရမယ့် သက်တမ်းအတွက်လည်း အကျိုးမရှိပါဘူး။ မနက်ဖန် လူသားအားလုံးဟာ မိမိတို့ရဲ့အရှင်သခင်ထံ သွားကြရမှာပါ။ အဲဒီမှာ အီမာန်ယုံကြည်မှုကို စစ်ဆေးမှာဖြစ်တယ်။ ဒီလိုတွေ မိတ်ဆွေတို့ကို ပြောနေရခြင်းဟာ ကျွန်တော့်ရဲ့ ကိုယ်ကျိုးလည်းဖြစ်ပါတယ်။

ဘာလို့လဲဆိုတော့ မနက်ဖြန် စာရင်းစစ်ဆေးမယ့်နေ့ရာမှာ မိတ်ဆွေတို့က 'ကျွန်တော်တို့ဆီကို ဒီလိုပြော ဆိုတာတွေ ရောက်ရှိလာခြင်း မရှိပါဘူး'ဆိုပြီး ငြင်းဆန်ခြင်းမပြုနိုင် အောင် ကျွန်တော်က မိတ်ဆွေတို့ကို တင်ပြနေခြင်းဖြစ်ပါ တယ်။

ဒီမှန်ကန်တဲ့ စကားရပ်တွေဟာ မိတ်ဆွေတို့ရဲ့ နှလုံး သားထဲမှာ ကိန်းအောင်းသွားမယ်လို့ ကျွန်တော် မျှော်လင့် ပါတယ်။

လာပါ မိတ်ဆွေတို့။ စစ်မှန်တဲ့နှလုံးသားနဲ့ မှန်ကန် တဲ့ဝိညာဉ်ပိုင်ရှင် မိတ်ဆွေတို့။ ဖန်ဆင်းရှင်ကို သက်သေထူ ပြီး နှလုံးသားတွေရဲ့ အခြေအနေမှန်ကို သိတော်မူတဲ့ ဖန်ဆင်းရှင် လက်ခံနိုင်တဲ့ စစ်မှန်တဲ့ စိတ်ရင်းစိတ်ထားနဲ့ ဝန်ခံကတိပြုပါ မိတ်ဆွေတို့။

أَشْهَدُ أَنْ لَا إِلٰهَ إِلَّا اللّٰهُ، وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهُ وَرَسُوْلُهُ

အဓိပ္ပာယ်။ ။ကျွန်တော်မျိုး သက်သေထွက်ဆိုပါ၏။ အလ္လာဟ်အရှင်မြတ်မှလွဲပြီး အခြားသော ခဝပ်ကိုးကွယ်

ခြင်း ခံထိုက်သူမရှိ၊ ထိုအရှင်သည် တစ်ပါးတည်းသာ ဖြစ်တော်မူ၏။ ထိုအရှင်နှင့် ဂုဏ်ရည်တူဆိုတာလည်း လုံးဝမရှိပါ။ ထို့နောက် တမန်တော်မြတ်(ﷺ)သည် အလ္လာဟ်အရှင်မြတ်၏ စစ်မှန်သော ကျေးကျွန်နှင့် တမန်တော်ဖြစ်တော်မူ၏။

ကျွန်တော် အမှားဝန်ချတောင်းပန်ပါ၏။ ငြင်းပယ်မှုနှင့် အလုံးစုံသော တုဖက် ကိုးကွယ်မှုများနှင့် အကုသိုလ်အပေါင်းမှ၊ ၎င်းနောက် မိမိအားဖန်ဆင်းသော စစ်မှန်သော အရှင်သခင်၏ အမိန့်အားလုံးကို လက်ခံပါမည်။ ၎င်းနောက် ထိုအရှင်မြတ်၏ စစ်မှန်သော တမန်တော်မြတ်(ﷺ)၏ မှန်ကန်သော နာခံမှုပြုပါမည်ဟု ဝန်ခံကတိပြုပါသည်။

အလွန်သနားကြင်နာတော်မူသော၊ အလွန်မွန်မြတ်တော်မူသော အရှင်မြတ်သည် အသင်နဲ့ ကျွန်တော်တို့ကို ဤဖြောင့်မတ်သော လမ်းစဉ်ပေါ်မှာ သေသည်အထိ လျှောက်လှမ်း စေတော်မူပါစေသား။

ကျွန်တော့်ရဲ့ ချစ်မိတ်ဆွေ၊ အကယ်၍ အသင်ဟာ နောက်ဆုံးထွက်သက်တိုင် ဤယုံကြည်မှု အီမာန်တို့နဲ့အညီ မိမိရဲ့သက်တမ်းကို ကုန်ဆုံးစေမည်ဆိုလျှင် မိတ်ဆွေအနေနဲ့ ချစ်ခြင်း၏ဝတ္တရားကို မည်ကဲ့သို့ ကျေပွန်ခဲ့တယ်ဆိုတာ သိရှိရပါလိမ့်မယ်။

## အီမာန်၏စမ်းစစ်မှု

အထက်မှာ ဖော်ပြထားတဲ့ အစ္စလာမ်နဲ့ အီမာန်ကို အကြောင်းခံပြီး မိတ်ဆွေဟာ စမ်းသပ်မှုတွေနဲ့လည်း ကြုံတွေ့နိုင်ပါတယ်။ ဒါပေမယ့် မပူပါနဲ့မိတ်ဆွေ၊ အောင်နိုင်ခြင်းဆိုတာ အမြဲတမ်း အမှန်တရားအတွက်ပဲ ဖြစ်ပါတယ်။ အကယ်၍ မိတ်ဆွေရဲ့ ဘဝသက်တမ်းတစ်ခုလုံး စမ်းသပ်ခံရမှုနဲ့ ဖြတ်သန်းခဲ့ရရင်လည်း ‘ဒီလောကရဲ့ သက်တမ်းက ရက်အနည်းငယ်အတွက်သာ ဖြစ်တယ်။ သေပြီးနောက်ရရှိမယ့် ဂျန္နသ် သုခဘုံ၊ အဲဒီမှာစံစားရမယ့် စည်းစိမ်တွေနဲ့ မိမိရဲ့ အရှင်သခင်ကို ကျေနပ်စေတော်မူပြီး အဲဒီအရှင်ကို ဖူးမျှော်ခွင့်ရမယ်ဆိုတဲ့ အကောင်းဆုံးစည်းစိမ်နဲ့စာရင် ဒီမှာကြုံတွေ့

နေရတဲ့ စမ်းသပ်မှုတွေဟာ မပြောပလောက် ပါဘူး'လို့တွေး ပြီး ဖြေသိမ့်ပါ။

## မိတ်ဆွေရဲ့ တာဝန်

နောက်တစ်ချက် ပြောလိုတာက အီမာန်နဲ့ အစ္စလာမ် ရဲ့ အမှန်တရားဟာ အဲဒီအီမာန်နဲ့ အစ္စလာမ်ကို မရရှိသေးတဲ့ ပုဂ္ဂိုလ်တွေရဲ့ ရပိုင်ခွင့်ဝတ္တရားတစ်ခုလည်း ဖြစ်ပါတယ်။ ဒါကြောင့် မိတ်ဆွေမှာလည်း အဲဒီနှစ်ခုကို ဖြန့်ချိဖို့ တာဝန်ရှိ ပါတယ်။ ဒီတော့ စိတ်စေတနာ ဖြူစင်စွာနဲ့ မိမိရဲ့ညီနောင် တွေကို စာနာတဲ့စိတ်သက်သက်နဲ့ အရှင်မြတ်ရဲ့ အမျက် တော်နဲ့ ဂျဟန္နမ်ငရဲမီးရဲ့ ပြစ်ဒဏ်ကနေ ကယ်တင်နိုင်စေဖို့ နစ်နာဆုံးရှုံးမှုရဲ့ ခံစားချက်နဲ့ တမန်တော်မြတ်(ﷺ)က အဲဒီ အမှန်တရားကို လူတွေထံပို့ချခဲ့တဲ့ နည်းလမ်းအတိုင်း ပို့ချပါ လေ။

အဲဒီလို ပို့ချတဲ့အခါ မှန်ကန်တဲ့ လမ်းစဉ်ကို နားလည် စေဖို့ အလ္လာဟ်အရှင်မြတ် ထံတော်ပါးမှာ တောင်းဆုပန်ပါ။

မျက်မမြင်တစ်ယောက် မိမိရဲ့ရှေ့မှာ လျှောက်လှမ်းနေရင်း မီးပုံထဲကျလုဆဲဆဲ အခြေအနေမှာ သူ့ကိုမီးပုံထဲမကျအောင် ကာကွယ်တားဆီးတာမျိုး နှုတ်ကနေတောင်မှ ဖွင့်ဟပြောဆိုခြင်းမပြုဘဲ မဆိုင်သလို နေတဲ့သူကို လူသားလို့ ခေါ်ထိုက်ပါ့မလား။ လူသားမှန်ရင် အဲဒီမျက်မမြင်ကို ဖေးမတားမြစ်ရမယ်၊ လမ်းကြောင်းမှန်ကို လျှောက်လှမ်းစေဖို့ ကူညီရမှာပဲ ဖြစ်ပါတယ်။ ဒါ့အပြင် နှုတ်ကလည်း အသင် မီးပုံထဲမကျအောင် ကျွန်တော်တတ်စွမ်းသမျှ စွမ်းဆောင် ကူညီမှာပါလို့ ကတိပြုမှာပဲ ဖြစ်ပါတယ်။ ဒါမှသာ လူသားဆန်တဲ့သူ အစစ် အမှန်ဖြစ်မှာပါ။

မုစ်လင်မ်တစ်ယောက်ဟာ အီမာန်ယုံကြည်ပြီးတဲ့နောက် အဲဒီသူဟာ သာသနာရေးရာတွေမှာ ကျမ်းတော်မြတ်ကုရ်အာန်နဲ့ နဗီတမန်တော်ရဲ့ လမ်းပြမှုကို ရရှိပြီးပြီဆိုတော့ တုဖက်နိုင်းယှဉ် ကိုးကွယ်မှုနဲ့ ငြင်းပယ်မှုရဲ့မီးလျှံတွေထဲမှာ နစ်မွန်းနေတဲ့သူတွေကို ကယ်တင်ဖို့ ကြိုးပမ်းကြရမှာဖြစ်ပါတယ်။ လိုအပ်ရင် အဲဒီသူဟာ အခြားသူတွေ အီမာန်ကို

ကျောခိုင်းပြီး မှားယွင်းတဲ့ လမ်းစဉ်အပေါ် လျှောက်လှမ်းမှု မဖြစ်စေဖို့ ခြေထောက်ကိုင်ပြီး အမှန်တရားကို လင်းပြပေးဖို့လည်း အဆင်သင့်ဖြစ်နေရမှာပါ။

မက်ဆန္ဒ တစုံတရာ ကင်းမဲ့ပြီး စာနာစိတ်အပြည့်နဲ့ ပြောတဲ့ စကားရပ်တိုင်းဟာ နားထောင်သူရဲ့ နှလုံးသားမှာ စူးရှတဲ့သက်ရောက်မှု ဖြစ်စေပါတယ်။ တကယ်လို့များ လူတစ်ယောက်က အသင့်ကို အကြောင်းခံပြီး အီမာန် သက်ဝင်ယုံကြည်ပြီးနောက် စိုးပိုင်တော်မူသော အရှင်မြတ် ထံတော်ပါးကို အခစားဝင်ရောက်သွားမယ်ဆိုရင် မုချကေန် ကျွန်တော်တို့ဟာ အောင်မြင်သူတွေ ဖြစ်သွားမှာပါ။ ဒါကြောင့်လည်း အလ္လာဟ်အရှင်မြတ်က လူတစ်ဦးကို ငြင်းပယ်မှုနဲ့ တုဖက်နိုင်းယှဉ် ကိုးကွယ်မှုနွံထဲကနေ ဆွဲထုတ်ပြီး မှန်ကန်တဲ့ လမ်းစဉ်ပေါ်ကို ပို့ဆောင်ပေးတဲ့သူကို အလွန်ပဲကျေနပ်တော်မူမှာဖြစ်ပါတယ်။ ဥပမာတစ်ခုနဲ့ ပြောပါရစေ။ တကယ်လို့ မိတ်ဆွေရဲ့ ရင်နှစ်သည်းချာ သားရတနာက မိတ်ဆွေကို ပုန်ကန်ပြီး မိတ်ဆွေရဲ့ ရန်သူတွေနဲ့

ပူးပေါင်းမယ်၊ အဲဒီရန်သူတွေရဲ့ စကားကိုနာခံနေရာကနေ သူတော် ကောင်းတစ်ဦးနဲ့ ဆုံတွေ့ပြီး အဲဒီသူတော်ကောင်းက မိတ်ဆွေရဲ့ သားကိုနားချပြီး သားလိမ္မာလေးဖြစ်အောင် ပြုပေးတယ်ဆိုရင် မိတ်ဆွေအနေနဲ့ အဲဒီသူတော်ကောင်း အပေါ် ဘယ်လောက်များ ကျေနပ်ပီတိဖြစ်မလဲဆိုတာ စဉ်းစားကြည့်ပါလေ။

အဲဒီပမာပေးထားတဲ့ သားရဲ့ဖခင်ဖြစ်တဲ့ မိတ်ဆွေထက် အခြားသူတွေကို အီမာန်ပို့ချဝေမျှပေးတဲ့ အကြောင်းခံဖြစ်သူကို ဖန်ဆင်းရှင်က မနှိုင်းမယှဉ်သာအောင် နှစ်ထောင်းအားရ ဖြစ်တော်မူမှာ အမှန်ပါ။

## အီမာန်ယုံကြည်ပြီးနောက်

အီမာန်နဲ့ အစ္စလာမ်ကို လက်ခံပြီးတဲ့နောက် မိတ်ဆွေဟာ ဖန်ဆင်းရှင်ရဲ့ စစ်မှန်တဲ့ ကျေးကျွန်တစ်ဦး ဖြစ်သွားတဲ့အခါ မိတ်ဆွေအပေါ်မှာ တစ်နေ့ကို ငါးကြိမ်နမာဇ်ဆောက်တည်ဖို့ ဖရဇ်(မလုပ်မနေရ)တာဝန် ကျရောက်လာပြီဖြစ်ပါတယ်။ ဒါကြောင့် မိတ်ဆွေဟာ နမာဇ်ဆောက်

တည်နည်းကို သင်ယူပြီး လက်တွေ့ကျင့်ကြံပါ။ ဒီနည်းနဲ့ မိတ်ဆွေရဲ့ ဝိညာဉ်ဟာ အေးချမ်းမှုရစေပြီး အလ္လာဟ်အရှင်မြတ်ရဲ့ အချစ်ထားရှိမှုကိုလည်း တိုးပွားစေမှာဖြစ်တယ်။ အဲဒီနောက် လမြတ်ရမဇာန် ရောက်ရှိလာတာနဲ့ တစ်လတိတိ ဥပုသ်စောင့် ရမှာဖြစ်တယ်။ ငွေကြေးချမ်းသာသူဆိုပါက သာသနာက သတ်မှတ်ထားတဲ့ စံနှုန်းနဲ့အညီ မိမိရဲ့ ဝင်ငွေထဲကနေ ရထိုက်သူတွေရဲ့ဝေစုကို မျှဝေရမှာဖြစ်ပါတယ်။ အဲဒီနောက် တတ်စွမ်းနိုင်ပါက မိမိရဲ့သက်တမ်းမှာ တစ်ကြိမ်တစ်ခါ ဟဂ်ျပြုဖို့ သွားရောက်ရမှာဖြစ်တယ်။

မိတ်ဆွေကို သတိပေးပါရစေ။ အခု မိတ်ဆွေဟာ အီမာန်နဲ့ အစ္စလာမ်ကို လက်ခံထားပြီးဖြစ်လို့ မိတ်ဆွေရဲ့ ဦးခေါင်းကို အလ္လာဟ်အရှင်မြတ်ရဲ့ ရှေ့တော်မှောက်က လွဲပြီး မည်သူ့ကိုမျှ ဦးမညွတ်လေနှင့်။ မိတ်ဆွေအတွက် အရက်သေစာ သောက်စားခြင်း၊ လောင်းကစားပြုခြင်း၊ အတိုးပေး၊ အတိုးယူပြုခြင်း၊ ဝက်သားစားခြင်း၊ လာဘ်ပေး လာဘ်ယူပြုခြင်းတို့အပါအဝင် သာသနာတော်က ဟရာမ်လို့

တားမြစ်ထားတဲ့ အရာရာတိုင်းကို ရှောင်ကြဉ်ရမှာဖြစ်တယ်။ သာသနာတော်က ဟလာလ်လို့ သတ်မှတ်ထားတဲ့ အရာရာတိုင်းကိုတော့ စိတ်ချလက်ချ ပြုနိုင်ပါတယ်။

မိတ်ဆွေဟာ မိမိရဲ့ ဖန်ဆင်းရှင်ထံတော်ကနေ ထုတ်ပြန်ပို့ချထားတဲ့ ကျမ်းတော်မြတ်ကုရ်အာန်ကို နေ့စဉ် ရွတ်ဖတ်ဖို့လည်း လိုပါတယ်။ သန့်ရှင်းစင်ကြယ်မှု ပြုနည်းတွေကိုလည်း လေ့လာသင်ယူရမယ်။ ပြီးတော့ စစ်မှန်တဲ့ နှလုံးသားကနေ 'အို-ကျွန်တော်မျိုးအား မွေးမြူဖန်ဆင်းတော်မူသောအရှင်၊ ကျွန်တော်မျိုးနဲ့ ကျွန်တော်မျိုးရဲ့ မိတ်ဆွေများ၊ ဆွေမျိုးရင်းချာများနဲ့ မြေပထဝီပေါ်ရှိ လူသားထုတစ်ရပ်လုံးအား အီမာန်နဲ့တကွ ရှင်သန်စေပြီး ကွယ်လွန်တဲ့အခါမှာလည်း အီမာန်နဲ့တကွ ဖြစ်စေတော်မူပါ'လို့ ဆုတောင်းပါလေ။

ဒါဟာ အရေးကြီးပါတယ်။ ဘာလို့လဲဆိုရင် အီမာန်သည်သာ လူအသိုက်အမြုံရဲ့ ပထမဆုံးနဲ့ နောက်ဆုံးအားကိုးရာ ဖြစ်နေလို့ပါ။ အလ္လာဟ်အရှင်မြတ်ရဲ့ နဗီတမန်

တော်တစ်ပါးဖြစ်တဲ့ အိဗ်ရာဟီးမ်(ﷺ)ကို မလိုမုန်းထားသူတွေက အလျှံညီးညီး တောက်လောင်နေတဲ့ မီးပုံကြီးထဲကို ပစ်ချခဲ့ပေမယ့် အီမာန်ကို အကြောင်းခံပြီး တမန်တော် အိဗ်ရာဟီးမ် (ﷺ)ဟာ စိုးစဉ်းမျှနစ်နာထိခိုက်မှု မရှိခဲ့သလိုပဲ ယနေ့ခေတ်မှာလည်း အဲဒီအီမာန်ကိုပဲ အကြောင်းခံပြီး အဲဒီကနေရရှိတဲ့ အင်အားနဲ့ မီးပုံကို ပန်းဥယျာဉ်ဖြစ်အောင် ပြုနိုင်မှာဖြစ်သလို စစ်မှန်တဲ့လမ်းစဉ်အတိုင်း လျှောက်လှမ်းတဲ့အခါ အတားအဆီးဟူသမျှကိုလည်း အလွယ်တကူနဲ့ ကျော်ဖြတ်သွားနိုင်မှာပဲ ဖြစ်ပါတယ်။

ဒီနေ့ လိုအပ်နေတာက တမန်တော်အိဗ်ရာဟီးမ်(ﷺ)ရဲ့ အီမာန်ယုံကြည်မှုမျိုးပါ။ အဲဒီအရာကိုသာ ပိုင်ဆိုင်ထားတယ်ဆိုရင် မီးပုံလည်း ပန်းဥယျာဉ်အဖြစ် ပြောင်းလဲဖော်ဆောင်ပေးမှာ အသေအချာပါ။

**13.5.2020 (3:22)**